


( الخزائن ) အလ်ခဇာအင်န် စာတည်းအဖွဲ့မှ စီစဥ်သည်။

⋮

အဘက်ဘက်မှ ကြိုးပမ်းဆောင်ရွက်ခဲ့ကြသော အလ်ခဇာအင်န်အဖွဲ့ဝင်များ

**(ရှာဖွေစုစည်း တင်ပြသူများ)**

အလ်ဟာဂ်ျ မော်လာနာ မွဖ်သီ အဗ်ဒွလ္လာဟ် (ဆိုလိုင်မာနီ)

မော်လာနာ မွဖ်သီ ကာရီ ဟာဖိဇ် မူဆာ (မအာရေဖီ)

မော်လာနာ ဟာဖိဇ် ဟေရှားမ် (မအာရေဖီ)

**(မြန်မာစာ အတိုင်ပင်ခံ)**

အဗ်ဒွရ်ရဟီးမ် (ခ) ဆရာအောင်ကို

**(အတွင်း၊အပြင် ဒီဇိုင်း)**

အလ်ဟာဂ်ျ ဟာဖိဇ် ဟာမီးမ် (call me mike studio)

⋮

# မာတိကာ





**စိစစ်ပေးပါသော အလ်ဟားဂျ် မော်လာနာ မုဖ်သီ ကာရီ ဟာဖိဇ် အာစွင်းမ်**

**(နဒ်ဝီ၊ အဇ္ဇလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ)၏ အမှာစာ**

بسم الله الرحمن الرحيم

الحمد لله على جميع النعم ، والصلاة والسلام على سيدنا محمد وأله وصحبه ما جرى المداد بالقلم . وبعد

( အမှာစာရှည်သွားတာ ခွင့်လွှတ်ပါ )

သဂ္ဂိဝီးဒ်ပညာရပ်

သဂ္ဂိဝီးဒ်ပညာရပ်နှင့်စပ်လျဉ်း၍ အပိုင်းနှစ်ပိုင်းရှိသည်ကို ဦးစွာ မှတ်သားသင့်ပါသည်။

**(၁) လက်တွေ့အကောင်အထည်ဖော်ခြင်း**

အရွယ်ရောက်ပြီးသည့် မွတ်စ်လင်မ်တိုင်းသည် ကျမ်းမြတ်ကုရ်အာန်ဖတ်ရွတ်ရာတွင် သဂ္ဂိဝီးဒ်ဥပဒေများအား လက်တွေ့အကောင်အထည်ဖော်ရန်မှာ ဖရ်ဇ်တာဝန်ဖြစ်သည်။

ထိုအချက်ကို စူရဟ်မုဇ်ဇမ်မိလ်လာ ورتل القرأن ترتيلا ဟူသော အာယသ်တော်နှင့် ဖိုင်ဒ်ဗင်န်ဆာဗိသ် ﷺ သခင်ဆင့်ပြန်သော " မြင့်မြတ်တော်မူသော အရှင်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို မိမိချပေးတော်မူသည့်အတိုင်း ဖတ်ရွတ်ခြင်းကို နှစ်သက်တော်မူသည်။ " ဆိုသည့် ဟဒီးဆ်တော်က အတည်ပြုနေပါသည်။

**(၂) စာတွေ့သင်ယူခြင်း**

ထိုသို့လက်တွေ့အကောင်အထည်ဖော်ဆောင်နိုင်ရန် ဦးစွာ သဂ္ဂိဝီးဒ်ပညာရပ်ဆိုင်ရာ ဥပဒေများကို စာတွေ့သင်ယူထားခြင်းသည်လည်း အရေးကြီးသည့် ကဏ္ဍတစ်ရပ်ပင် ဖြစ်သည်။

ဤမျှအရေးပါလှသည့်ကဏ္ဍကို ခေတ်အဆက်အဆက်ရှိ ပညာရှင်ကြီးများက မိမိတို့ခေတ်စနစ်နှင့်အညီ တာဝန်သိသိ သစ္စာရှိရှိဖြင့် သဂ္ဂိဝီးဒ်ဥပဒေဆိုင်ရာ ကျမ်းကြီး ကျမ်းငယ်အသွယ်သွယ်ကို ရေးသားပြုစုပေးခဲ့ကြသည်။

သဂျ်ဝီးဒ်ကျမ်းများ ပြုစုခြင်းသမိုင်း

မြင့်မြတ်တော်မူသောအရှင်မြတ်သည် ကျမ်းမြတ်ကုရ်အာန်ကို သဂျ်ဝီးဒ်ဥပဒေများနှင့်အတူ ချပေးသနားတော်မူခဲ့သည်။ သို့သော် သီးသန့်သဂျ်ဝီးဒ်ဥပဒေများကို စုစည်းခြင်းသည် ဟစ်ဂျ်ရီ (၂)ရာစု နှစ်မှ စတင်ခဲ့သည်။

**(၂)ရာစုနှစ်။** ။ ပထမဆုံးသဂျ်ဝီးဒ်ပညာရပ်၏ မူများကို အေမာမ် ခလီလ် ﷬ (ဟစ်ဂျ်ရီ ၁၇၀ကွယ်လွန်)က မျိုးစေ့ချပေးခဲ့သည်။

**(၃)ရာစုနှစ်။** ။ အေမာမ် အဗူမုဇာဟင်မ် မူစာ ခါကာနီ၊ ဘဂ်ဒါဒီ ﷬ (ဟစ်ဂျ်ရီ ၃၂၅ ကွယ်လွန်)က ပထမဆုံး သဂျ်ဝီးဒ်ကျမ်းပြုစုခဲ့သည်။

**(၄)ရာစုနှစ်။** ။ သဂျ်ဝီးဒ်ဟူသော ဝေါဟာရကို ပထမဆုံး အေမာမ် အဗုလ်ဟစံ စအီဒီ ﷬ (၄၁၀ ကွယ်လွန်)က မိမိ၏ التنبيه على اللحن الجلي واللحن الخفي ကျမ်းတွင် သုံးစွဲခဲ့သည်။

**(၅)ရာစုနှစ်။** ။ ဤရာစုနှစ်မှစ၍ ပြီးပြည့်စုံသော သဂျ်ဝီးဒ်ကျမ်းများ ထွက်ပေါ်လာခဲ့သည်။

- အေမာမ် မက္ကီဗင်န်အဗူသွာလိဗ် ကိုင်စီ ﷬ (၄၃၇ ကွယ်လွန်)၏ الرعاية ကျမ်း။
- အေမာမ် အဗူအမ်ရ် ဒါနီ ﷬ (၄၄၄ ကွယ်လွန်)၏ التحديد ကျမ်း။
- အေမာမ် ကုရ်သုဗီ ﷬ (၄၆၁ ကွယ်လွန်)၏ الموضح ကျမ်းများနှင့်အတူ အခြားသော ကျမ်းပေါင်း (၅၀)ကျော်ခန့်ကို တွေ့ရှိရသည်။

**(၆)ရာစုနှစ်။** ။ ဤရာစုနှစ်တွင်လည်း သဂျ်ဝီးဒ်ကျမ်းပေါင်းများစွာ ပေါ်ထွန်းခဲ့သည်။ အေမာမ် ရှာသွေ့ဗီ ﷬ (၇၉၀ ကွယ်လွန်)၏ ကျမ်းများသည် ထင်ရှားကျော်ကြားခဲ့သည်။

**(၇)ရာစုနှစ်။** ။ ဤရာစုနှစ်တွင် အေမာမ် စခါဝီ ﷬ ၏ جمال القراء ကျမ်းသည် သဂျ်ဝီးဒ်ကျမ်းအပေါင်းကို ဦးဆောင်ခဲ့သည်။

**(၈)ရာစုနှစ်။** ။ ဤရာစုနှစ်တွင် အေမာမ် အလီ အလ်ဘဂ်ဒါဒီ ﷬ (၈၀၁ ကွယ်လွန်)၏ سراج القاري ကျမ်းသည် ပြိုင်စံရှားကျမ်းအဖြစ် ရပ်တည်ခဲ့သည်။

**(၉)ရာစုနှစ်။** ။ ဤရာစုနှစ်တွင် အေမာမ်ဂျဇရီ ﷬ (၈၃၃ ကွယ်လွန်)၏ المقدمة الجزرية ကျမ်း





သည် အောင်မြင်မှုအပေါင်း သရဖူဆောင်းခဲ့သည်။

**(၁၀)ရာစုနှစ်။** ။ ဤရာစုနှစ်တွင် အေမာမ်စိုယူသွီ ﷬ (၉၁၁ ကွယ်လွန်)၏ ကျမ်းများသည် မှီငြမ်းကျမ်းများအဖြစ် ရပ်တည်ခဲ့သည်။

**(၁၁)ရာစုနှစ်။** ။ ဤရာစုနှစ်တွင် မွလ္လာဟ်အလီ ကာရီ ﷬ (၁၀၁၄ ကွယ်လွန်)၏ ကျမ်းများသည် ထင်ရှားကျော်ကြားခဲ့သည်။

**(၁၂)ရာစုနှစ်။** ။ ဤရာစုနှစ်တွင် အေမာမ် ဒိမ်ယာသွီ ﷬ (၁၁၁၇ ကွယ်လွန်)၏ ကျမ်းများသည်လည်း မှတ်တမ်းဝင်ခဲ့သည်။

**(၁၃)ရာစုနှစ်။** ။ ဤရာစုနှစ်ကို မုဟမ္မဒ် အလ်မုသဝလ္လီ ﷬ (၁၃၁၃ ကွယ်လွန်)၏ ကျမ်းများက သင်္ဂျဝီးဒ်နယ်ပယ်ကို လွှမ်းမိုးနိုင်ခဲ့သည်။

**(၁၄)ရာစုနှစ်။** ။ ဤရာစုနှစ်တွင် ရှိုင်ခ် မက္ကီ နဆွ်ရ် ﷬ ၏ نهاية القول المفيد ကဲ့သို့ကျမ်းများ ပေါ်ထွန်းခဲ့သည်။

**(၁၅)ရာစုနှစ်။** ။ ကျွန်ုပ်တို့မှီတင်းနေထိုင်နေသော (၁၅)ရာစုနှစ်နည်းပညာ ထွန်းကားသည့်ခေတ်ဖြစ်သည့် အားလျော်စွာ အလွန်အံ့သြဖွယ်ရာကျမ်းကြီးကျမ်းငယ်အသွယ်သွယ် ကို တွေ့ရသည်။ ယင်းကျမ်းတို့အနက် အလွန်ခမ်းနားတင့်တယ်လှသည့် ကျမ်းမှာ ရှိုင်ခ် အိုင်မန် စိုဝိုင်းဒ် ရေးသားပြုစုသည့် التجويد المصور ကျမ်းဟု ဆိုရပေမည်။

**မြန်မာ့မြေမှ မွတ်စ်လင်မ်အွမ္မသ်ထုအတွက် အိမ်မက်တစ်ခု အကောင်အထည်ပေါ်လာခြင်း**

မြန်မာ့မြေမှ မွတ်စ်လင်မ်ညီနောင်များအတွက်လည်း ပညာရှင်များက မိမိတို့ခေတ်ကာလ၏ တောင်းဆိုချက်များအရ သင်္ဂျဝီးဒ်ကျမ်းများကို ပြုစုပေးခဲ့သည်။

ဤသို့ပြုစုရာတွင် အဖွဲ့အစည်းများမှ ကြီးမှူးပြုစုခဲ့သည့်ကျမ်းများ၊ ကျောင်းတော်ကြီးများမှ မိမိတို့သင်ရိုးတွင်ပြဋ္ဌာန်းရန် ရေးသားသောကျမ်းများ၊ မက္ကာသဗ်တာဝန်ယူထားသူများမှ မိမိတို့မက္ကာသဗ်ရှိ ရင်သွေးငယ်များအတွက် ပြုစုပေးသောကျမ်း၊ ပညာရှင်တစ်ပါးမှ ပြုစုသည့်ကျမ်းများ စသည်ဖြင့် တွေ့ရှိရသည်။ ဤကဏ္ဍတွင် အုပ်တစ်ချုပ်၊ သဲတစ်ပွင့် ပါဝင်

ခွင့်ရရှိခဲ့သူအပေါင်းကို အရှင်မြတ် နှစ်ဌာနတွင် ကောင်းသောအစားများ ချီးမြှင့်ပေးသနား တော်မူပါစေ။

အိုလမာအစ္စလာမ့်သာသနာ့ပညာရှင်များအဖွဲ့မှ ကြီးမှူးပြုစုသည့် بيان التجويد ကျမ်း၊ မြန်မာနိုင်ငံအလယ်ပိုင်းရှိ အာလင်မ်ပညာရှင်ကြီးများ ဦးဆောင်ပြုစုခဲ့သည့် သဂျ်ဝီးဒ်ကျမ်း၊ ဝေဖာကုလ် မကာသိမ်အဖွဲ့မှ ပြုစုခဲ့သည့် သဂျ်ဝီးဒ်ကျမ်း၊ မန္တလေးမြို့ မိဖ်သာဟီမိသားစုမှ ပြုစုသည့် သဂျ်ဝီးဒ်ကျမ်း၊ မော်လာနာ စိုင်ယစ်ဒ် မုဟမ္မဒ်ရှား (ဟိုင်စိုင်နီ)၏ مجود القرآن ၊ ဂျာမေ့အသွလ် ကောင်ဆရစ်လ် အစ္စလာမီယာဟ်(မြစ်ငယ်)ကျောင်းအုပ်ဆရာကြီး ဟဇရသ် မော်လာနာ မုဖ်သီ အစ်ဒုရ်ရဟီးမ်ဆပ်၏ رائد الإخوان ၊ ဂျာမေ့အဟ် အတ်စ်မားအ်ဒ် ကျောင်းအုပ်ဆရာကြီး ဟဇရသ် မော်လာနာ မုဖ်သီ အိလ်ယားစ်ဆပ်မှ ဟာဖိဇ်ကျက်နေသည့် ကျောင်းသားငယ်များအတွက် ရေးသားပြုစုခဲ့သော تحفة الأطفال ကျမ်းနှင့် အာလင်မ်တန်းကျောင်းသားများအတွက် ရေးသားပြုစုအပ်သော التجويد الميسر ၊ ကမ္ဘာကျော် သဂျ်ဝီးဒ်ပညာရှင်ကြီး ရှိုင်ခ်အိုင်မန် စိုဝိုင်းဒ်၏ التجويد المصور အား ဒေါက်တာဟာဖိဇ္ဇဒ္ဒီးန် @ ဆရာဝင်းလှိုင်၏ ဘာသာပြန်ဆိုချက်။ စသည်ဖြင့်......... ဤနေရာတွင်အမည်မဖော်ခဲ့သော ကျမ်းပေါင်းများစွာအား တောင်းပန်အသိအမှတ်ပြုအပ်ပါသည်။ ကျမ်းတိုင်းကျမ်းတိုင်းသည်လည်း ကိုယ်ပိုင်ထူးခြားချက်များ၊ ကိုယ်စီရနံ့များဖြင့် သဂျ်ဝီးဒ်ပညာရပ်ဆိုင်ရာ နယ်ပယ်ကြီး တစ်ခုလုံးကို သင်းကြိုင်စေခဲ့ပါသည်။

**ခဇာအေ့နုသ်သဂျ်ဝီးဒ် (သို့) ရနံ့ပေါင်းခကျမ်း**

မြန်မာ့မြေရှိ ရင်သွေးရတနာများအတွက် ခေတ်စနစ်နှင့်အညီ၊ အလုံးစုံသော ကွက်လပ်များကို အတတ်နိုင်ဆုံးဖြည့်စွက်ပေးမည့် စာအုပ်တစ်အုပ်ကို တွေ့ရှိရပြီး အရှင်မြတ်ကို အတိုင်းမသိ ကျေးဇူးတင်မိပါသည်။ ထိုစာအုပ်ကို (**အလ်ခဇာအင်န် စာတည်းအဖွဲ့**)မှ မျိုးဆက်သစ် ကလောင်ရှင်များ ပူးပေါင်း ပါရမီဖြည့်ထားပါသည်။ ၎င်းတို့၏ မင်္ဂလာရှိလှသော အမည်နာမများမှာ- အလ်ဟားဖိျ မော်လာနာ မုဖ်သီ အစ်ဒုလ္လာဟ် (ဆိုလိုင်မာနီ)၊





မော်လာနာ မုဖ်သီ ကာရီ ဟာဖိဇ် မူစာ (မအာရေ့ဖ်)၊ မော်လာနာ ဟာဖိဇ် ဟော့ရှားမ် (မအာရေ့ဖ်)၊ အလ်ဟားဂျ် ဟာဖိဇ် ဟာမီးမ် (Call me mike studio)(အတွင်းအပြင် ဒီဇိုင်း)၊ ဆရာ အဗ်ဒုရ် ရဟီမ်း @ ဆရာ အောင်ကို (မြန်မာစာ အတိုင်ပင်ခံ) -တို့ဖြစ်ပါသည်။

**ဤကျမ်းငယ်၏ ထူးခြားချက်များမှာ ....**

- ရိုးရှင်းလွယ်ကူလှသော ရေးနည်းရေးဟန်ကို အသုံးပြုထားခြင်း။
- သင်္ချိုဝိုးဒ်ပညာရပ်ဆိုင်ရာ ကဏ္ဍများအား စုံလင်စွာ တင်ပြထားခြင်း။
- ခိုင်လုံတိကျသော ကျမ်းများကိုသာ ကိုးကားတင်ပြခြင်း။
- လက်တွေ့ကျလှသောနည်းစနစ်ကို အသုံးပြုထားသောကြောင့် လေ့ကျင့်ရန် လွယ်ကူစေခြင်း။
- ကလေးငယ်များ၏ စိတ်နေသဘောထားကိုထောက်ရှုပြီး ဆေးရောင်စုံဖြင့် ဖန်တီးထားခြင်း။
- ရင်သွေးငယ်များ ကျက်မှတ်ရလွယ်ကူစေရန် ဝေါဟာရအခေါ်အဝေါ်များကို စီမံထားခြင်း။
- သင်္ချိုဝိုးဒ်ပညာရပ်၏ အလှတရားများနှင့် ပြောင်မြောက်စွာဖန်တီးနိုင်စွမ်းများကို ပေါင်းစပ်ထားခြင်း။

ကျန်ရှိနေသောအလှတရားများကို စာဖတ်ပရိသတ်အနေဖြင့် ခံစားသိမြင်နိုင်ပါသည်။

ဤပညာရှင်များသည် ကျွန်ုပ်တို့မြန်မာနိုင်ငံရှိ သင်္ချိုဝိုးဒ်ဆိုင်ရာနယ်ပယ်ရှိ ခေတ်ကာလ တောင်းဆိုချက်တစ်ရပ်ကို ဖြည့်ဆည်းလိုက်ခြင်းဖြစ်ပြီး။ ကျွန်ုပ်၏ မပြည့်စုံသော လေ့လာချက်အရ ကိုယ်ပိုင်ဖန်တီးရေးသားသည့် သင်္ချိုဝိုးဒ်ကျမ်းများတွင် တင်ပြချက် ပြည့်စုံခြင်းရှုထောင့်၊ နည်းပညာကို မိမိရရအသုံးချသည့် ရှုထောင့်တို့မှကြည့်လျှင် ဤကျမ်းသည် ပထမဆုံးကျမ်းဖြစ်လိမ့်မည်ဟု သတင်းစကားပါးလိုပါသည်။

ကျွန်ုပ်သည် ဤကျမ်းကို စ၊လယ်၊ဆုံး တစ်ကြိမ်ထက်မနည်း ကြည့်ရှုခဲ့ပါသည်။ အချို့သော အကြံပြုချက်များကိုလည်း တင်ပြခဲ့ပါသည်။ ကျမ်းရှင်များကလည်း လှိုက်လှဲပျူငှာစွာ မေတ္တာအပြည့်ဖြင့် လက်ခံခဲ့ပါသည်။

## အကြံပြုချက်

ဤကဲ့သို့ အဖက်ဖက်မှ ဝိုင်းဝန်းကြိုးပမ်းထားသော်လည်း လိုအပ်ချက်များ၊ အမှားများမှာလည်း ဆက်လက်ရှိနေဦးမည်ဖြစ်ပါသည်။ စာရှုသူများဘက်မှ တစ်စုံတစ်ရာ အကြံပြုလိုလျှင်သော်လည်းကောင်း၊ အမှားပြင်ဆင်ချက်တစ်စုံတစ်ရာကိုသော်လည်းကောင်း ချီးမြှင့်လိုပါက အလ်ခဇာအင်န်စာတည်းအဖွဲ့ကို တိုက်ရိုက်ဆက်သွယ်ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

မက္ကသဗ်၊ ဟာဖိဇ်ကျောင်း၊ အာလင်မ်ကျောင်းများ၏ ကျောင်းအုပ်ဆရာကြီးများ၊ ပညာရေးတာဝန်ခံများအနေဖြင့် ဤစာအုပ်ကို လေ့လာကြည့်ပြီး မိမိတို့သင်ရိုးတွင် သင်ရိုးစာအုပ်အဖြစ် ပြဋ္ဌာန်းမည်ဆိုလျှင် များစွာအကျိုးရှိလိမ့်မည်ဟု မျှော်လင့်ပါသည်။

## နိဂုံးချုပ်ဒိုအာ

မြင့်မြတ်တော်မူသော အရှင်မြတ် ဤကျမ်းငယ်ကို အထူးလက်ခံ သဘောတူတော်မူပါစေ။ ဤကျမ်းပြုစုသူများ၊ ဤကျမ်းဖြစ်မြောက်ရေးတွင် အဖက်ဖက်မှ အုပ်တစ်ချပ်သဲတစ်ပွင့် ပါဝင်ခဲ့ကြသူများ၊ ဤကျမ်းကို သင်ပေးသင်ယူလုပ်သူများကိုလည်း နှစ်ဘဝနှစ်ဌာနတွင် လိုတရအဆင့်ကို ပိုင်ဆိုင်ခွင့် ချီးမြှင့်ပေးသနားတော်မူပါစေ။

အလ်ခဇာအင်န်အဖွဲ့၏ အခြားသောသင်ရိုးစာအုပ်များကိုလည်း ပြီးမြောက်အောင်မြင်စေပြီး၊ အွမ္မသ်ထုတစ်ရပ်လုံးကိုလည်း ကေယာမသ်တိုင် အကျိုးခံစားခွင့်များ ချီးမြှင့်ပေးသနားတော်မူပါစေ ဟု ဆုမွန်ကောင်းများ အရှင်မြတ်ထံတောင်းခံရင်းဖြင့်...............

မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊ အဗ္ဗလ်ဟာစနီ၊ မဇ္ဇာဟေ့ရီ)

၁၆၊ ဇုလ်ကာအ်ဒဟ်လ၊ ဟစ်ဂျ်ရီ (၁၄၄၃)ခု

၁၇၊ ၆၊ ၂၀၂၂ခု (သောကြာနေ့)

..............................................................................................





# နိဒါန်း

بسم الله الرحمن الرحيم

الحمد لله ربّنا القائل : وقرأنا فرقناه لتقرأه على الناس على مكث ونزّلناه تنزيلا والصلاة والسلام على رسول الله سيدنا محمّد المخاطَب بقوله تعالى : ورتّل القرأن ترتيلا وبعد :

ကျမ်းမြတ်ကုရ်အာန်သည် မြင့်မြတ်မှန်ကန်တော်မူသော အလ္လာဟ်အရှင်မြတ်၏ မုက္ခပါဠ်တော်ဖြစ်သည်။ ယင်းကျမ်းမြတ်အား အလ္လာဟ်အရှင်မြတ်သည် ကမ္ဘာ့လူသားထု တစ်ရပ်လုံး၏ အဘက်ဘက်မှ ခိုင်မာကျစ်လျစ်သော ဘဝလမ်းညွှန်နှင့် ဘဝရှုထောင့်တိုင်း အတွက် မိမိ၏အချစ်တော် တမန်တော်ချုပ် မုဟမ္မဒ် ﷺ ထံ ချပေးတော်မူခဲ့သည်။

အရေးပါအဆင့်မြင့်သည်နှင့်အမျှ ကဏ္ဍတိုင်းတွင် စည်းစနစ်များအလွန်ပင်များပြား လှသော ကျမ်းဖြစ်ပေရာ ယင်းကျမ်းအား ဖတ်ရွတ်သရဇ္ဈာယ်ရေးကဏ္ဍမှာလည်း နည်းစနစ် များရှိမည်မှာ အမှန်ပင်ဖြစ်သည်။

ယခုလက်ဝယ်၌ရှိသော ကျမ်းငယ်သည် အဆိုပါကျမ်းမြတ်၏ ဖတ်ရွတ်သရဇ္ဈာယ် ရေး၌ ဌာန်ကရိုဏ်းကျနိုင်စေမည့် လမ်းညွှန်ကျမ်းငယ်တစ်စောင်ပင် ဖြစ်ပေသည်။ ဤ ကျမ်းငယ်သည် အစ္စလာမ်ဘာသာရေးအခြေခံ သင်ယူနေသော ကလေးသူငယ်များနှင့် သဂျ်ဝီးဒ်ပညာရပ်ကို အခြေခံမှ စတင်လေ့လာလိုသော သက်လတ်၊ သက်ကြီးများအတွက် ကျမ်းမြတ်ကုရ်အာန်ကို ဌာန်ကရိုဏ်းကျကျရွတ်ဖတ်နိုင်စေရန် ရည်သန်ပြီး خزائن التجويد သဂျ်ဝီးဒ်၏ဘဏ္ဍာတော်များအမည်ဖြင့် ပြုစုထားသော အခြေခံကျမ်းတစ်စောင်ပင် ဖြစ်သည်။

**ဤကျမ်းကို တာဝန်ယူသင်ကြားပို့ချပေးသော ဆရာများအား ပန်ကြားလိုသည်မှာ** သင်ခန်းစာတိုင်း၏ အခေါ်အဝေါ်နှင့်ဖတ်နည်းဥပဒေများကို ကြိုတင်လေ့လာအသင့်ပြင်၍





မိမိ၏တပည့်များအား ကိုယ်တိုင်လက်တွေ့ပြကာ ၎င်းတို့ နားလည်သဘောပေါက်စေရန် စိတ်ရှည်စွာဖြင့် လေ့ကျင့်သင်ကြားပေးပါ။ ထို့ပြင် ကျမ်းလာဥပမာများအပေါ်၌သာ တင်းတိမ်မှုမပြုဘဲ ကုရ်အာန်ကျမ်းမြတ်မှ အဆိုပါသင်ခန်းစာဆိုင်ရာ ဥပမာများကိုလည်း ဝေဆာစွာဖြင့် သင်ကြားပေးပါ။ ထို့နောက် ကုရ်အာန်ကျမ်းမြတ်မှ ဥပဒေများကိုလည်း ကျောင်းသားများအား ရေးဖြေနည်းစနစ်ဖြင့် တစ်ခုချင်းစီထုတ်ရေးခိုင်းပါက إن شاء الله ကျောင်းသားများသည် ဥပဒေများအား ကောင်းစွာနားလည်ပြီး ကုရ်အာန်ကျမ်းမြတ်ကို စနစ်တကျ ဖတ်ရွတ်နိုင်ပေလိမ့်မည်။

**လေ့လာသူများ သိရှိထားသင့်သည့်အချက်မှာ** သဂျ်ဝီးဒ်ပညာရပ်သည် ဆရာမပါဘဲ တစ်ကိုယ်တည်း တတ်မြောက်နိုင်သော ပညာရပ်မဟုတ်ပါ။ သို့ပါ၍ ဆရာနှင့်တကွ လက်တွေ့ ကျကျ အသံနေအသံထားကို စိတ်ရှည်စွာဖြင့် လေ့ကျင့်ရန် အထူးလိုအပ်ပေသည်။

အလ္လာဟ်အရှင်မြတ် မွတ်စ်လင်မ်လူထုတစ်ရပ်လုံးအား ဤအရေးပါသည့် သဂျ်ဝီးဒ် ပညာရပ်ကို သင်ယူတတ်မြောက်ပြီး ကျမ်းမြတ်ကုရ်အာန်အား ဌာန်ကရိုဏ်းကျကျ ရွတ်ဖတ် နိုင်စွမ်း ချီးမြှင့်တော်မူပါစေ။ (အာမီးန်)

အလ်ခဇာအင်န် စာတည်းအဖွဲ့

ဟိဂျ်ရီ ၁၄၄၁၊ ရမသ္သာန်လ (၂၇)ရက်

၂၀၂၀ ခုနှစ်၊ မေလ (၂၁)ရက်

## အခန်း(၁) သဂျ်ဝီးဒ်၏ အဓိပ္ပါယ်ဖွင့်ဆိုချက်နှင့် နိုးဆော်ချက်

### (၁) သဂျ်ဝီးဒ်၏အဓိပ္ပါယ်

သဂျ်ဝီးဒ်ဆိုသည်မှာ အရဗီစာပေတွင် လှပတင့်တယ်အောင်ပြုလုပ်ခြင်း၊ ပီပြင်နိုင်ခံ့အောင်ပြုလုပ်ခြင်းကို ခေါ်ဆိုပါသည်။ ပညာရပ်ဆိုင်ရာ ဝေါဟာရတွင်မူ ဗျည်းအက္ခရာများကို ၎င်းတို့၏ ထွက်ရာနေရာများမှ ၎င်းတို့၏ အရည်အချင်းများနှင့်တကွ ဖတ်ရွတ်ခြင်းကို ခေါ်ဆိုပါသည်။

(مفتاح التجويد للمتعلم المستفيد)

### (၂) သဂျ်ဝီးဒ်၏မူတည်ချက်

သဂျ်ဝီးဒ်၏မူတည်ချက်သည် ကျမ်းမြတ်ကုရ်အာန်၏ စာလုံးများသာ ဖြစ်ပါသည်။

(مفتاح التجويد للمتعلم المستفيد)

### (၃) သဂျ်ဝီးဒ်၏အမိန့်ပညတ်ချက်

ကျမ်းမြတ်ကုရ်အာန်အား ရွတ်ဖတ်မည့် အရွယ်ရောက်ပြီး အမျိုးသား/အမျိုးသမီးတိုင်းအပေါ် သဂျ်ဝီးဒ်ဥပဒေနှင့်အညီ ရွတ်ဖတ်ရန် ဖရ်ဇ္ဇေအိုင်းန် (မပြုမနေရတာဝန်) ဖြစ်သည်။ ကျမ်းမြတ်ကုရ်အာန်ကို သဂျ်ဝီးဒ်ဥပဒေနှင့်အညီ မရွတ်ဖတ်သူသည် အပြစ်ထိုက်သူ ဖြစ်သည်။

(مفتاح التجويد للمتعلم المستفيد - المقدمة الجزرية)

### (၄) သဂျ်ဝီးဒ်ပညာရပ်သင်ယူခြင်း၏အမိန့်

ကျမ်းမြတ်ကုရ်အာန်ကို မှန်ကန်တိကျစွာ ရွတ်ဖတ်နိုင်သည်ခန့် သဂျ်ဝီးဒ်ပညာရပ်ကိုသင်ယူခြင်းသည် ဖရ်ဇ္ဇေအိုင်းန် ဖြစ်သည်။ သဂျ်ဝီးဒ်ပညာရပ်အားလုံးကို သင်ယူခြင်းသည် ဖရ်ဇ္ဇေကေဖာယဟ် ဖြစ်သည်။

(معارف التجويد - أصول التجويد)

## (၅) သဂျ်ဝီးဒ်ပညာရပ်၏ထွတ်မြတ်မှု

သဂျ်ဝီးဒ်ပညာရပ်သည် အခြားသောပညာရပ်များအားလုံးထက် သာပို၍ ထွတ်မြတ်ပေသည်။

(أحكام قراءة القرآن الكريم)

## (၆) သဂျ်ဝီးဒ်ပညာရပ်၏ရည်ရွယ်ချက်

သဂျ်ဝီးဒ်ပညာရပ်၏ ရည်ရွယ်ချက်မှာ ကျမ်းမြတ်ကုရ်အာန်ကို (အလ္လာဟ်အရှင်မြတ်ချပေးတော်မူသည့်အတိုင်း) မှန်ကန်တိကျစွာ ရွတ်ဖတ်နိုင်စေရန်အတွက် ဖြစ်ပေသည်။

(معارف التجويد - أصول التجويد)

## (၇) သဂျ်ဝီးဒ်ပညာရပ်၏အကျိုးကျေးဇူး

သဂျ်ဝီးဒ်ပညာရပ်၏အကျိုးကျေးဇူးမှာ နှစ်ဘဝနှစ်ဌာန နဖူးစာကောင်းခြင်းနှင့် ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်ရာတွင် မှားယွင်းမှုများမှ နှုတ်လျှာကိုထိန်းသိမ်းပေးခြင်း ဖြစ်ပေသည်။

(مفتاح التجويد للمتعلم المستفيد)

## (၈) သဂျ်ဝီးဒ်ပညာရပ်၏မဏ္ဍိုင်ကြီးများ

သဂျ်ဝီးဒ်ပညာရပ်တွင် မဏ္ဍိုင်ကြီး(၄)ခု ရှိပါသည်။

(၁) ဗျည်းအက္ခရာများ၏ ထွက်ရှိရာနေရာများကို သိနားလည်ခြင်း။

(၂) ဗျည်းအက္ခရာများ၏ ဝိသေသများကို သိနားလည်ခြင်း။

(၃) ဗျည်းအက္ခရာများ၏ ပေါင်းစပ်မှုကို အကြောင်းပြု၍ ပေါ်ပေါက်လာသည့် ဥပဒေများကို သိနားလည်ခြင်း။

(၄) နှုတ်လျှာကို ကြိမ်ဖန်များစွာလေ့ကျင့်ပေးခြင်းနှင့် သဂျ်ဝီးဒ်ပညာကို တတ်ကျွမ်းသော

ပညာရှင်များ၏ နှုတ်တော်များမှ တိုက်ရိုက်သင်ယူဆည်းပူးခြင်း။

(مفتاح التجويد للمتعلم المستفيد)

## (၉) ကျမ်းမြတ်ကုရ်အာန်ရွတ်ဖတ်ခြင်းဆိုင်ရာ သဂျ်ဝီးဒ်အဆင့်များ

(၁) تَـرْتِـيْـل သဂျ်ဝီးဒ်ဥပဒေများနှင့်အညီ ဖြေးဖြေးဖတ်ခြင်း။

(၂) حَـدْرْ သဂျ်ဝီးဒ်ဥပဒေများနှင့်အညီ မြန်မြန်ဖတ်ခြင်း။

(၃) تَـدْوِيْـرْ သဂျ်ဝီးဒ်ဥပဒေများနှင့်အညီ မနှေးမမြန်ဖတ်ခြင်း။

(الدقائق المحكمة - مفتاح التجويد للمتعلم المستفيد)







### မြတ်ကုရ်အာန်ကို လှခြယ်ရာ

အက္ခရာတို့၏ ထွက်ရှိရာ၊
မခ်ရဂျ်များကို နားလည်ပါ။
အက္ခရာတို့၏ ဝိသေသ၊
ဆွေဖသ်များကို နားလည်ပါ။
ပေါင်းစပ်မှုကြောင့် ပေါ်ပေါက်လာ၊
ဥပဒေများကို နားလည်ပါ။
ကျွမ်းကျင်သူထံ ဆည်းပူးကာ၊
ကြိမ်ဖန်များစွာ လေ့ကျင့်ပါ။
မြတ်ကုရ်အာန်ကို လှခြယ်ရာ၊
သဂျ်ဝီးဒ်မဏ္ဍိုင် ဤလေးဖြာ။

- လက်ယာ





## အခန်း(၂) အရဗီဗျည်းအက္ခရာများပုံစံ

| ا | ب | ت | ث | ج |
|---|---|---|---|---|
| اَلِفٌ اَلِفُ | بَاءٌ بَا | تَاءٌ تَا | ثَاءٌ ثَا | جِيْمٌ جِيْمُ |
| ح | خ | د | ذ | ر |
| حَاءٌ حَا | خَاءٌ خَا | دَالٌ دَالُ | ذَالٌ ذَالُ | رَاءٌ رَا |
| ز | س | ش | ص | ض |
| زَایٌ زَا | سِيْنٌ سِيْنُ | شِيْنٌ شِيْنُ | صَادٌ صَادُ | ضَادٌ ضَادُ |
| ط | ظ | ع | غ | ف |
| طَاءٌ طَا | ظَاءٌ ظَا | عَيْنٌ عَيْنُ | غَيْنٌ غَيْنُ | فَاءٌ فَا |
| ق | ك | ل | م | ن |
| قَافٌ قَافُ | كَافٌ كَافُ | لَامٌ لَامُ | مِيْمٌ مِيْمُ | نُوْنٌ نُوْنُ |
| و | ه | ء | ی | |
| وَاوٌ وَاوُ | هَاءٌ هَا | هَمْزَةٌ هَمْزَةُ | يَاءٌ يَا | |

(قاعدة بغدادية)

## အခန်း(၃) အရဗီသရများဆိုင်ရာ အခြေခံဝေါဟာရများ

( ـَ ) ဇဗရ်ကို فَتْحَة ဟုခေါ်ပါသည်။

( ـِ ) ဇေရ်ကို كَسْرَة ဟုခေါ်ပါသည်။

( ـُ ) ပေးရှ်ကို ضَمَّة ဟုခေါ်ပါသည်။

( ـَـِـُ )တို့အနက် တစ်ခုတိုင်းကို حَرَكَة ဟုခေါ်ပါသည်။

حَرَكَة ပါရှိသောအက္ခရာကို مُتَحَرِّك ဟုခေါ်ပါသည်။ {ဥပမာ။ ။ ( ب )ပေါ်တွင် ( ـَ ) ရှိပါက ( بَ ) بَاء مُتَحَرِّك

( ـْ ),( ـۡ ) ဤသင်္ကေတကို جَزْم (ခေါ်) سُكُوْن ဟုခေါ်ပါသည်။

جَزْم (ခေါ်) سُكُوْن ပါရှိသောအက္ခရာကို سَاكِن ဟုခေါ်ပါသည်။ {ဥပမာ။ ။ ( ن )ပေါ်တွင် ( ـْ ) ရှိပါက ( نْ ) نُوْن سَاكِن

( ـّ ) ဤသင်္ကေတကို تَشْدِيْد ဟုခေါ်ပါသည်။

تَشْدِيْد ပါရှိသောအက္ခရာကို مُشَدَّد ဟုခေါ်ပါသည်။ {ဥပမာ။ ။ ( م )ပေါ်တွင် ( ـّ ) ရှိပါက ( مّ ) مِيْم مُشَدَّد

( ـً ) ဒိုးဇဗရ်ကို فَتْحَتَان ဟုခေါ်ပါသည်။

( ـٍ ) ဒိုးဇေရ်ကို كَسْرَتَان ဟုခေါ်ပါသည်။

( ـٌ ) ဒိုးပေးရှ်ကို ضَمَّتَان ဟုခေါ်ပါသည်။

( ـًـٍـٌ )တို့အနက် တစ်ခုတိုင်းကို تَنْوِيْن ဟုခေါ်ပါသည်။

تَنْوِيْن ပါရှိသောအက္ခရာကို مُنَوَّن ဟုခေါ်ပါသည်။ {ဥပမာ။ ။ ( ب )ပေါ်တွင် ( ـً ) ရှိပါက ( بً ) بَاء مُنَوَّن

( ـٓ ) ဤသင်္ကေတကို مَدّ ဟုခေါ်ပါသည်။

( ـٰ ) ခရားဇဗရ်ကို اَلِف مَقْصُوْرَة ဟုခေါ်ပါသည်။

( ـٖ ) ခရားဇေရ်ကို صِلَةُ الْكَسْرَةِ بِالْيَاءِ ဟုခေါ်ပါသည်။

( ـٗ ) အုလ်တားပေးရှ်ကို صِلَةُ الضَّمَّةِ بِالْوَاوِ ဟုခေါ်ပါသည်။

## အခန်း(၄) သွားများအကြောင်း

အချို့သော مَخْرَجْ များသည် သွားများနှင့် ဆက်နွယ်နေသည့် အတွက်ကြောင့် مَخْرَجْ များကို အလွယ်တကူ သိရှိနားလည်စေရန်အတွက် သွားများအကြောင်းကိုလည်း သိရှိထားရန် အရေးကြီးပေသည်။ လူတို့တွင် အပေါ်သွား(၁၆)ချောင်းနှင့် အောက်သွား(၁၆) ချောင်း = စုစုပေါင်း(၃၂)ချောင်း ရှိပါသည်။



(၁) ثَنَايَا

ရှေ့တည့်တည့်ရှိ အပေါ်၊ အောက် သွားကြီး(၂)ချောင်းစီ စုစုပေါင်း(၄)ချောင်းကို ثَنَايَا ဟုခေါ်ပါသည်။ အပေါ်ရှေ့သွားကြီး (၂)ချောင်းကို ثَنَايَاعُلْيَا ဟုခေါ်ပြီး အောက်ရှေ့သွားကြီး (၂)ချောင်းကို ثَنَايَاسُفْلٰى ဟုခေါ်ပါသည်။



(၂) رَبَاعِيَّاتُ

ثَنَايَا နှင့် ကပ်လျက်ရှိသော ဘယ်၊ ညာ၊ အပေါ်၊ အောက် (၁)ချောင်းစီ စုစုပေါင်း(၄)ချောင်းကို رَبَاعِيَّاتُ ဟုခေါ်ပါသည်။



(၃) اَنْيَابُ

رَبَاعِيَّاتُ နှင့် ကပ်လျက်ရှိသော ဘယ်၊ ညာ၊ အပေါ်၊ အောက်(၁)ချောင်းစီ စုစုပေါင်း(၄)ချောင်းကို اَنْيَابُ သွားစွယ်များဟု ခေါ်ပါသည်။



(၄) ضَوَاحِكُ

اَنْيَابُ နှင့် ကပ်လျက်ရှိသော ဘယ်၊ ညာ၊ အပေါ်၊ အောက်(၁)ချောင်းစီ စုစုပေါင်း(၄)ချောင်းကို ضَوَاحِكُ ဟုခေါ်ပါသည်။





(၅) طَوَاحِنْ

ضَوَاحِكْ နှင့် ကပ်လျက်ရှိသော ဘယ်၊ ညာ၊ အပေါ်၊ အောက်(၃)ချောင်းစီ စုစုပေါင်း(၁၂)ချောင်းကို طَوَاحِنْ ဟုခေါ်ပါသည်။

(၆) نَوَاجِذْ

طَوَاحِنْ နှင့် ကပ်လျက်ရှိသော နောက်ဆုံး ဘယ်၊ ညာ၊ အပေါ်၊ အောက် (၁)ချောင်းစီ စုစုပေါင်း (၄)ချောင်းကို نَوَاجِذْ ဟုခေါ်ပါသည်။

ضَوَاحِكْ، طَوَاحِنْ، نَوَاجِذْ စုစုပေါင်း သွားအချောင်း(၂၀)ကို أَضْرَاسْ အံသွားများဟု ခေါ်ပါသည်။

(جمال القرآن - معارف التجويد)




 ثَنَايَا

 رَبَاعِيَّاتْ

 أَنْيَابْ

 ضَوَاحِكْ

 طَوَاحِنْ

 نَوَاجِذْ

أَضْرَاسْ (ضَوَاحِكْ، طَوَاحِنْ، نَوَاجِذْ)

## အခန်း(၅) مَخَارِجُ الْحُرُوْفُ ဗျည်းအက္ခရာတို့၏ ထွက်ရှိရာနေရာများအကြောင်း

مَخْرَجْ ဆိုသည်မှာ အရဗီဗျည်းအက္ခရာတို့၏ ထွက်ရှိရာနေရာကို ခေါ်ပါသည်။ مَخْرَجْ (၁၇)ခုရှိပါသည်။ ၎င်း مَخْرَجْ(၁၇)ခု၏တည်နေရာ (၅)နေရာရှိပါသည်။

၎င်း(၅)နေရာမှာ -

(၁) جَوْفْ ပါးစပ်အတွင်းရှိ လေဟာနယ်

(၂) حَلْقْ လည်ချောင်း

(၃) لِسَانْ နှုတ်လျှာ

(၄) شَفَتَانْ နှုတ်ခမ်းနှစ်ခု

(၅) خَيْشُوْمْ နှာတံရင်း - တို့ဖြစ်ပါသည်။



(၁) جَـوْف ပါးစပ်အတွင်းရှိ လေဟာနယ်

جَـوْف ပါးစပ်အတွင်းရှိလေဟာနယ်တွင် မခ်ရဂျ်(၁)ခု ရှိပါသည်။ ၎င်းနေရာမှ حُـرُوْفِ مَـدَّة (၃)လုံး ထွက်ပါသည်။

၎င်း(၃)လုံး၏ပုံစံမှာ -

(၁) ( ا ) အလျင် (ـَ)ရှိပုံ။ (ـَا)

(၂) (يْ) အလျင် (ـِ)ရှိပုံ။ (ـِيْ)

(၃) ( وْ ) အလျင် (ـُ)ရှိပုံ။ (ـُوْ)

- တို့ဖြစ်ပါသည်။

ဥပမာ ▶ نُوْحِيْهَا ◀ أُوْتِيْنَا ◀ أُوْذِيْنَا

ပါးစပ်အတွင်းရှိ လေဟာနယ်၏ မခ်ရဂျ်အား ပြပုံ



## (၂) حَلْقِيْ လည်ချောင်း

حَلْقِيْ လည်ချောင်းတွင် မခ်ရဂျ်(၃)ခု ရှိပါသည်။ ၎င်းမခ်ရဂျ်(၃)ခုမှ အက္ခရာ(၆)လုံး ထွက်ပါသည်။

**မခ်ရဂျ်(၁)။** ။ လည်ချောင်း၏အောက်ဆုံး (ရင်ဘတ်နှင့်ဆက်နေသော)နေရာမှ ( ء، ھ )တို့ ထွက်ပါသည်။

**ဥပမာ** ▶ أَءْ، إِءْ، أُءْ ▶ أَهْ، إِهْ، أُهْ

**မခ်ရဂျ်(၂)။** ။ လည်ချောင်း၏ အလယ်နေရာမှ ( ع، ح )တို့ ထွက်ပါသည်။

**ဥပမာ** ▶ أَعْ، إِعْ، أُعْ ▶ أَحْ، إِحْ، أُحْ

**မခ်ရဂျ်(၃)။** ။ လည်ချောင်း၏အပေါ်ဆုံး (ပါးစပ်နှင့်အနီးဆုံး)နေရာမှ ( غ، خ )တို့ ထွက်ပါသည်။

**ဥပမာ** ▶ أَغْ، إِغْ، أُغْ ▶ أَخْ، إِخْ، أُخْ

လည်ချောင်း၏ မခ်ရဂျ်များ ပြပုံ



## (၃) لِسَانٌ နုတ်လျှာ

لِسَانٌ နုတ်လျှာတွင် မခ်ရဂျ်(၁၀)ခုရှိပါသည်။ ၎င်းမခ်ရဂျ်(၁၀)ခုမှ အက္ခရာ(၁၈)လုံး ထွက်ပါသည်။

**မခ်ရဂျ်(၁)။ ။** လျှာအရင်းကို ၎င်းနှင့်တည့်နေသော အပေါ်အာခေါင်ဖြင့် ထိ၍ဖတ်ပါက ( ق )အက္ခရာ ထွက်ပါသည်။

**ဥပမာ** ▶ اَقْ، اِقْ، اُقْ

**မခ်ရဂျ်(၂)။ ။** ( ق )အက္ခရာ ထွက်သည့်နေရာမှ လျှာကိုအနည်းငယ်(ပါးစပ်ဘက်သို့)တိုးပြီး ၎င်းနှင့်တည့်နေသော အပေါ်အာခေါင်ဖြင့် ထိ၍ဖတ်ပါက ( ك )အက္ခရာ ထွက်ပါသည်။

**ဥပမာ** ▶ اَكْ، اِكْ، اُكْ

နုတ်လျှာ၏ မခ်ရဂျ်များ ပြပုံ (လျှာအရင်းပိုင်း)




**မခ်ရဂျ်(၃)။ ။** လျှာ၏အလယ်ပိုင်းအား ၎င်းနှင့်တည့်နေသော အပေါ်အာခေါင်ဖြင့် ထိ၍ ဖတ်ပါက ( ی، ش، ج )တို့ ထွက်ပါသည်။

**ဥပမာ** ▶ اَجْ، اِجْ، اُجْ ▶ اَشْ، اِشْ، اُشْ ▶ اَیَّ، اَیِّ، اَیُّ

နှုတ်လျှာ၏ မခ်ရဂျ်များ ပြပုံ (လျှာအလယ်ပိုင်း)




**မခ်ရဂျ်(၄)။** ။ လျှာဘေးဖောင်းတစ်လျှောက်ကို အပေါ်အံသွားများဖြင့် ထိ၍ဖတ်ပါက ( ض )အက္ခရာ ထွက်ပါသည်။[1]

**ဥပမာ** ▶ ضُ ، ضِ ، ضَ

**မခ်ရဂျ်(၅)။** ။ လျှာရှေ့ပိုင်း ဘေးဖောင်းနှစ်ဖက်မှစ၍ လျှာထိပ်ထိကို အပေါ်ရှေ့သွား (၈)ချောင်း၏ သွားဖုံးဖြင့် ထိ၍ဖတ်ပါက ( ل )အက္ခရာ ထွက်ပါသည်။

**ဥပမာ** ▶ لُ ، لِ ، لَ

နှုတ်လျှာ၏ မခ်ရဂျ်များ ပြပုံ (လျှာဖောင်းပိုင်း)




1 လျှာဘယ်ညာနှစ်ဖက်လုံး၏ ဘေးဖောင်းတစ်လျှောက်ကို အပေါ်ဘယ်ညာ အံသွား(၅)ချောင်းစီဖြင့် ထိ၍လည်း ဖတ်နိုင်ပေသည်။ သို့သော် ဘယ် (သို့) ညာတစ်ဘက်တည်းကိုသာ ထိ၍ဖတ်ခြင်းသည် လွယ်ကူပေသည်။ ဘယ်ဘက်ကို ထိ၍ဖတ်ခြင်းမှာ ပို၍ပင်လွယ်ကူပေသည်။

**မခ်ရဂ်ျ(၆)။** ။ လျှာရှေ့ပိုင်း ဘေးဖောင်းနှစ်ဖက်အနည်းငယ်မှစ၍ လျှာထိပ်ထိကို အပေါ်ရှေ့သွား(၆)ချောင်း၏ သွားဖုံးဖြင့် ထိ၍ဖတ်ပါက ( ن )အက္ခရာ ထွက်ပါသည်။

ဥပမာ ▶ اَنْ، اِنْ، اُنْ

**မခ်ရဂ်ျ(၇)။** ။ လျှာထိပ်ပိုင်းနှင့် ကျောပိုင်းအနည်းငယ်ကို အပေါ်ရှေ့သွား(၄)ချောင်း၏ သွားဖုံးဖြင့် ထိ၍ဖတ်ပါက ( ر )အက္ခရာ ထွက်ပါသည်။[1]

ဥပမာ ▶ اَرْ، اِرْ، اُرْ

နှုတ်လျှာ၏ မခ်ရဂ်ျများ ပြပုံ (လျှာရှေ့ပိုင်း)




**မခ်ရဂ်ျ(၈)။** ။ လျှာအဖျားအား အပေါ်ရှေ့သွားကြီး (၂)ချောင်း၏ အရင်းဖြင့် ထိ၍ဖတ်ပါက ( ط، د، ت )တို့ ထွက်ပါသည်။

ဥပမာ ▶ اَتْ، اِتْ، اُتْ ▶ اَدْ، اِدْ، اُدْ ▶ اَطْ، اِطْ، اُطْ

**မခ်ရဂ်ျ(၉)။** ။ လျှာအဖျားအား အပေါ်ရှေ့သွားကြီး (၂)ချောင်း၏ အဖျားဖြင့် ထိ၍ဖတ်ပါက ( ظ، ذ، ث )တို့ ထွက်ပါသည်။

ဥပမာ ▶ اَثْ، اِثْ، اُثْ ▶ اَذْ، اِذْ، اُذْ ▶ اَظْ، اِظْ، اُظْ

---

1 تَرْقِيْق ဖြစ်သော ر ကိုဖတ်ရာတွင်မူ လျှာ၏ထိပ်ပိုင်းအား အပေါ်ရှေ့သွား(၄)ချောင်း၏ သွားဖုံးစပ်ဖြင့် ထိ၍ဖတ်ရပေသည်။





နှုတ်လျှာ၏ မခ်ရဂျ်များ ပြပုံ (လျှာအဖျားပိုင်း)




နှုတ်လျှာ၏ မခ်ရဂျ်များ ပြပုံ (လျှာအဖျားပိုင်း)




**မခ်ရဂျ်(၁၀)။** ။ လျှာအဖျားအား အောက်ရှေ့သွားနှစ်ချောင်း၏ အဖျားနှင့် အပေါ်ရှေ့သွားကြီး (၂)ချောင်း၏ အတွင်းပိုင်းအနည်းငယ်တို့ဖြင့် ထိ၍ဖတ်ပါက( ز، س، ص )တို့ ထွက်ပါသည်။

**ဥပမာ** ▶ أَزْ، اِزْ، أُزْ ▶ أَسْ، اِسْ، أُسْ ▶ أَصْ، اِصْ، أُصْ

နှုတ်လျှာ၏ မခ်ရဂျ်များ ပြပုံ (လျှာအဖျားပိုင်း)



## (၄) شَفَتَانْ နှုတ်ခမ်းနှစ်ခု

شَفَتَانْ နှုတ်ခမ်းနှစ်ခုတွင် မခ်ရဂျ်(၂)ခုရှိပါသည်။ ၎င်းမခ်ရဂျ်(၂)ခုမှ အက္ခရာ(၄)လုံး ထွက်ပါသည်။

**မခ်ရဂျ်(၁)။** ။ အောက်နှုတ်ခမ်း၏ အတွင်းပိုင်းကို အပေါ်ရှေ့သွားကြီး (၂)ချောင်း၏ အဖျားဖြင့် ထိ၍ဖတ်ပါက ( ف )အက္ခရာ ထွက်ပါသည်။

**ဥပမာ** ▶ اَفْ، اِفْ، اُفْ

**မခ်ရဂျ်(၂)။** ။ နှုတ်ခမ်းနှစ်ခု၏ကြားမှ ( و، م، ب )တို့ ထွက်ပါသည်။ သို့သော် ထိုအက္ခရာ (၃)လုံးတွင် အနည်းငယ် ခြားနားချက်များ ရှိပါသည်။

**(က)** နှုတ်ခမ်းနှစ်ခု၏ စိုနေသော(အတွင်းပိုင်း)နှစ်ခုအား ပူးပြီး ချက်ချင်းပြန်ဖွင့်၍ ဖတ်ပါက ( ب )အက္ခရာ ထွက်ပါသည်။

**ဥပမာ** ▶ اَبْ، اِبْ، اُبْ

**(ခ)** နှုတ်ခမ်းနှစ်ခု၏ ခြောက်သွေ့သော(အပြင်ပိုင်း)နှစ်ခုအား ပိတ်၍ဖတ်ပါက ( م ) အက္ခရာ ထွက်ပါသည်။

**ဥပမာ** ▶ اَمْ، اِمْ، اُمْ

**(ဂ)** နှုတ်ခမ်းနှစ်ခုကို လုံးဝန်းသော ပုံသဏ္ဍာန်ဖြင့် အနည်းငယ်ဖွင့်၍ ဖတ်ပါက ( و ) အက္ခရာ ထွက်ပါသည်။

**ဥပမာ** ▶ اَوَّ، اَوِّ، اَوُّ





နှုတ်ခမ်း၏ မခ်ရဂျ်များ ပြပုံ




(၅) خَيْشُوْمْ နှာတံရင်း

خَيْشُوْمْ နှာတံရင်းတွင် မခ်ရဂျ်(၁)ခုရှိပါသည်။ ၎င်းမခ်ရဂျ်မှ غُنَّهْ ဖြစ်သောအက္ခရာများ ထွက်ပါသည်။ ၎င်းတို့မှာ -

(၁) مِيْمْ مُشَدَّدْ ( مّ ) နှင့် نُوْنْ مُشَدَّدْ ( نّ )

(၂) تَنْوِيْنْ နှင့် نْ ဖြစ်သော اِدْغَامْ بِغُنَّهْ

(၃) تَنْوِيْنْ နှင့် نْ ဖြစ်သော اِخْفَاءْ

(၄) تَنْوِيْنْ နှင့် نْ ဖြစ်သော اِقْلَابْ

(၅) مْ ဖြစ်သော اِدْغَامْ

(၆) مْ ဖြစ်သော اِخْفَاءْ - တို့ဖြစ်ပါသည်။

နှာတံရင်း၏ မခ်ရဂျ်များ ပြပုံ



## (၆) မခ်ရဂျ်များကို အလွယ်တကူသိရှိစေမည့် နည်းလမ်း(၂)ခု

(၁) မိမိသိရှိလိုသောအက္ခရာကို (ـْ)(သို့)(ـّ)ပေး၍ ၎င်း၏အလျင် ( اَ )ထားပြီး ပေါင်းဖတ်လိုက်ပါက အသံဆုံးသွားသည့်နေရာသည် ထိုအက္ခရာ၏ မခ်ရဂျ်ပင်ဖြစ်သည်။

ဥပမာ ▶ اَبْ، اَتْ ▶ اَبَّ، اَتَّ

(၂) မိမိသိရှိလိုသောအက္ခရာကို ( ـَ )ပေး၍ ၎င်း၏နောက်တွင် ( هْ )ထားပြီး ပေါင်းဖတ်လိုက်ပါက အသံစသည့်နေရာသည် ထိုအက္ခရာ၏ မခ်ရဂျ်ပင်ဖြစ်သည်။

ဥပမာ ▶ بَهْ، تَهْ

## (၇) اَلْقَابُ الْحُرُوْف ဗျည်းအက္ခရာတို့၏ ဂုဏ်ရည်အမည်များ

(၁) حُرُوْفِ مَدَّةٌ (၃)လုံးကို حُرُوْفِ جَوْفِيَّةٌ (သို့) حُرُوْفِ هَوَائِيَّةٌ ဟုခေါ်ပါသည်။

(၂) ( ء، ه، ع، ح، غ، خ )တို့ကို حُرُوْفِ حَلْقِيَّةٌ ဟုခေါ်ပါသည်။

(၃) (ق، ك)တို့ကို حُرُوْفِ لَهْوِيَّةٌ ဟုခေါ်ပါသည်။

(၄) ( ج، ش، ى )တို့ကို حُرُوْفِ شَجْرِيَّةٌ ဟုခေါ်ပါသည်။

(၅) (ض)အက္ခရာကို حَرْفِ حَافَةٌ ဟုခေါ်ပါသည်။

(၆) ( ل، ن، ر )တို့ကို حُرُوْفِ ذَلْقِيَّةٌ (သို့) حُرُوْفِ طَرْفِيَّةٌ ဟုခေါ်ပါသည်။

(၇) ( ت، د، ط )တို့ကို حُرُوْفِ نِطَعِيَّةٌ ဟုခေါ်ပါသည်။

(၈) ( ث، ذ، ظ )တို့ကို حُرُوْفِ لِثَوِيَّةٌ ဟုခေါ်ပါသည်။

(၉) ( ز، س، ص )တို့ကို حُرُوْفِ صَفِيْرِيَّةٌ ဟုခေါ်ပါသည်။

(၁၀) ( ب، م، ف، و )တို့ကို حُرُوْفِ شَفَوِيَّةٌ ဟုခေါ်ပါသည်။

(أحكام قراءة القرآن الكريم - جمال القرآن - معارف التجويد - أصول التجويد)

## အခန်း(၆) ( نّ ) نُوْنْ مُشَدَّدْ နှင့် ( مّ ) مِيْمْ مُشَدَّدْ အကြောင်း

( نّ ) နှင့် ( مّ ) တို့ကို ရပ်တန့်သည့်အခါ၌ဖြစ်စေ၊ ဆက်ဖတ်သည့်အခါ၌ဖြစ်စေ غُنَّهْ (ခေါ်) နှာတံရင်းမှအသံဖြင့် အလိဖ်(၁)လုံးခန့် ညည်း၍ဖတ်ရပါသည်။

ဥပမာ ▶ اِنَّ ◀ ثُمَّ

(جمال القرآن - معارف التجويد)

## အခန်း(၇) ( نْ ) نُوْنْ سَاكِنْ နှင့် ( ـً ، ـٍ ، ـٌ ) تَنْوِيْنْ အကြောင်း

( نْ ) နှင့် تَنْوِيْنْ ၏ ဖတ်နည်းဥပဒေ (၄)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) اِظْهَارْ

(၂) اِدْغَامْ

(၃) اِقْلَابْ

(၄) اِخْفَاءْ - တို့ဖြစ်ပါသည်။

### (၁) اِظْهَارْ အကြောင်း

اِظْهَارْ ဆိုသည်မှာ تَنْوِيْنْ ၊ نْ ၏အသံအား မညည်းဘဲ ပေါ်လွင်ထင်ရှားစွာဖတ်ခြင်းကို ခေါ်ပါသည်။

**اِظْهَارْ ဥပဒေဖြစ်ပုံ။ ။**

نْ (သို့) تَنْوِيْنْ ၏နောက်တွင် حُرُوْفِ حَلْقِيَّهْ (ခေါ်) (خ، غ، ح، ع، ه، ء)အက္ခရာ (၆)လုံးအနက်မှ တစ်လုံးလုံးလာပါက اِظْهَارْ ဥပဒေ ဖြစ်ပေမည်။

| | نْ ဥပမာ | تَـنْـوِيْـنْ ဥပမာ |
|---|---|---|
| ء | مَنْ اٰمَنَ | عَذَابٌ اَلِيْمٌ |
| ه | اَنْهَارُ | سَلٰامٌ هِيَ |
| ع | اَنْعَمْتَ | حَكِيْمٌ عَلِيْمٌ |
| ح | وَانْحَرْ | عَلِيْمًا حَكِيْمًا |
| غ | مِنْ غِلٍّ | رَبٌّ غَفُوْرٌ |
| خ | مِنْ خَوْفٍ | يَوْمَئِذٍ خَاشِعَةٌ |

## (၂) اِدْغَامْ အကြောင်း

اِدْغَامْ ဆိုသည်မှာ تَـنْـوِيْـنْ، نْ ၏အသံအား ၎င်း၏ နောက်တွင်ရှိသော အက္ခရာထဲတွင် ပေါင်းစပ်၍ဖတ်ခြင်းကို ခေါ်ပါသည်။

**اِدْغَامْ ဥပဒေဖြစ်ပုံ။ ။**

نْ (သို့) تَـنْـوِيْـنْ ၏နောက်တွင် (ن، و، ل، م، ر، ی)အက္ခရာ(၆)လုံးအနက်မှ တစ်လုံးလုံးလာပါက اِدْغَامْ ဥပဒေ ဖြစ်ပေမည်။ ၎င်းအက္ခရာ(၆)လုံးကို يَـرْمَـلُـوْنَ ဟူ၍လည်း အတိုကောက် မှတ်သားနိုင်ပေသည်။

اِدْغَامْ (၂)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(က) اِدْغَامْ بِغُنَّـةْ

(ခ) اِدْغَامْ بِغَيْـرِ غُنَّـةْ - တို့ဖြစ်ပါသည်။

### (က) اِدْغَامْ بِغُنَّـةْ အကြောင်း

اِدْغَامْ بِغُنَّـةْ ဆိုသည်မှာ تَـنْـوِيْـنْ، نْ ၏အသံအား ၎င်း၏ နောက်တွင်ရှိသော အက္ခရာထဲတွင် ညည်းသံနှင့်တကွ ပေါင်းစပ်၍ဖတ်ခြင်းကို ခေါ်ပါသည်။

**إِدْغَامْ بِغُنَّة ဥပဒေဖြစ်ပုံ။ ။**

نْ (သို့) تَنْوِيْن ၏နောက်တွင် (و، م، ن، ی)အက္ခရာ(၄)လုံးအနက်မှ တစ်လုံးလုံး လာပါက إِدْغَامْ بِغُنَّة ဥပဒေ ဖြစ်ပေမည်။ ၎င်းအက္ခရာ(၆)လုံးကို يَنْمُو ဟူ၍လည်း အတိုကောက် မှတ်သားနိုင်ပေသည်။

| | نْ ဥပမာ | تَنْوِيْن ဥပမာ |
|---|---|---|
| ی | مِنْ يَّوْمِ | يَوْمَئِذٍ يَّصْدُرُ |
| ن | مِنْ نِّعْمَةٍ | يَوْمَئِذٍ نَّاعِمَةٌ |
| م | مِنْ مَّآءٍ | صِرَاطًا مُّسْتَقِيْمًا |
| و | مِنْ وَّالٍ | رَحِيْمٌ وَّدُوْدٌ |

**မှတ်ချက်။ ။** ( نْ )၏နောက်တွင်ရှိသော (و، م، ن، ی) အက္ခရာ(၄)လုံးအနက်မှ တစ်လုံးလုံးသည် (نْ)နှင့်အတူ စာလုံးတစ်ခုအတွင်းတွင် ဖြစ်နေပါက إِدْغَامْ بِغُنَّة မဖြစ်ပါ။ إِظْهَارْ သာ ဖြစ်ပေမည်။ ထိုသို့ဖတ်ရခြင်းကို إِظْهَارِ مُطْلَقْ ဟုခေါ်ပါသည်။ ကျမ်းမြတ်ကုရ်အာန်တွင် ထိုသို့ဖတ်ရမည့်စာလုံး (၄)လုံးသာရှိပါသည်။

**၎င်းတို့မှာ** ▶ دُنْيَا ▶ بُنْيَانٌ ▶ صِنْوَانٌ ▶ قِنْوَانٌ

## (ခ) إِدْغَامْ بِغَيْرِ غُنَّة အကြောင်း

إِدْغَامْ بِغَيْرِ غُنَّة ဆိုသည်မှာ تَنْوِيْن، نْ ၏အသံအား ၎င်း၏ နောက်တွင်ရှိသော အက္ခရာထဲတွင် မညည်းဘဲ ပေါင်းစပ်၍ဖတ်ခြင်းကို ခေါ်ပါသည်။

**إِدْغَامْ بِغَيْرِ غُنَّة ဥပဒေဖြစ်ပုံ။ ။**

نْ (သို့) تَنْوِيْن ၏နောက်တွင် ( ل، ر )အက္ခရာ(၂)လုံးအနက်မှ တစ်လုံးလုံး လာပါက إِدْغَامْ بِغَيْرِ غُنَّة ဥပဒေ ဖြစ်ပေမည်။

| | نْ ဥပမာ | تَنْوِيْنْ ဥပမာ |
|---|---|---|
| ل | وَلٰكِنْ لَّا | هُدًى لِّلْمُتَّقِيْنَ |
| ر | مِنْ رَّسُوْلٍ | غَفُوْرٌ رَّحِيْمٌ |

## (၃) اِقْلَابْ အကြောင်း

اِقْلَابْ ဆိုသည်မှာ تَنْوِيْنْ ၊ نْ ၏အသံအား اِخْفَاءْ ဖြစ်နေသော ( مْ )၏အသံဖြင့် ပြောင်းလဲ၍ဖတ်ခြင်းကို ခေါ်ပါသည်။[1]

**اِقْلَابْ ဥပဒေဖြစ်ပုံ။ ။**

نْ (သို့) تَنْوِيْنْ ၏နောက်တွင် ( ب )အက္ခရာလာပါက اِقْلَابْ ဥပဒေ ဖြစ်ပေမည်။

| | نْ ဥပမာ | تَنْوِيْنْ ဥပမာ |
|---|---|---|
| ب | مِنْ بَعْدِ | سَمِيْعٌ بَصِيْرٌ |

## (၄) اِخْفَاءْ အကြောင်း

اِخْفَاءْ ဆိုသည်မှာ تَنْوِيْنْ ၊ نْ ၏အသံအား ဖုံးအုပ်၍ ညည်းဖတ်ခြင်းကို ခေါ်ပါသည်။

**اِخْفَاءْ ဥပဒေဖြစ်ပုံ။ ။**

نْ (သို့) تَنْوِيْنْ ၏နောက်တွင် حُرُوْفِ حَلْقِيَّةْ ၊ يَرْمَلُوْنَ နှင့် ب အက္ခရာတို့မှအပ ကျန်အက္ခရာ(၁၅)လုံးအနက်မှ တစ်လုံးလုံးလာပါက اِخْفَاءْ ဥပဒေ ဖြစ်ပေမည်။

**اِخْفَاءْ ဖြစ်စေသော အက္ခရာ(၁၅)လုံး။ ။**

ت ، ث ، ج ، د ، ذ ، ز ، س ، ش ، ص ، ض ، ط ، ظ ، ف ، ق ، ك

---

1 اِقْلَابْ ကို قَلْبْ ဟူ၍လည်း ခေါ်ပါသည်။ اِقْلَابْ ကို ဖတ်ရွတ်ရာတွင် နှုတ်ခမ်းနှစ်ခုအားပိတ်ပြီး ညည်းသံဖြင့် ဖတ်ရပေမည်။

| | نْ ဥပမာ | تَنْوِيْنْ ဥပမာ | | نْ ဥပမာ | تَنْوِيْنْ ဥပမာ |
|---|---|---|---|---|---|
| ت | مِنْ تَحْتِهَا | جَنّٰتٍ تَجْرِيْ | ص | يُنْصَرُوْنَ | قَاعًا صَفْصَفًا |
| ث | مَنْثُوْرًا | جَمِيْعًا ثُمَّ | ض | مَنْ ضَلَّ | وَكُلًّا ضَرَبْنَا |
| ج | مِنْ جُوْعٍ | فَصَبْرٌ جَمِيْلٌ | ط | يَنْطِقُوْنَ | قَوْمًا طَاغِيْنَ |
| د | اَنْدَادًا | قِنْوَانٌ دَانِيَةٌ | ظ | مَنْ ظَلَمَ | ظِلًّا ظَلِيْلًا |
| ذ | تُنْذِرْهُمْ | نَفْسٍ ذَآئِقَةٌ | ف | اَنْفُسَهُمْ | عُمْيٌ فَهُمْ |
| ز | اُنْزِلَ | نَفْسًا زَكِيَّةً | ق | مِنْ قَبْلِكُمْ | شَيْءٍ قَدِيْرٌ |
| س | وَتَنْسَوْنَ | قَوْلًا سَدِيْدًا | ك | مِنْكُمْ | يَوْمًا كَانَ |
| ش | مِنْ شَيْءٍ | بَأْسًا شَدِيْدًا | | | |

(مفتاح التجويد للمتعلم المستفيد - جمال القرآن - معارف التجويد)

ورتل القرآن ترتيلا

## အခန်း(၈) ( مْ ) مِيْمْ سَاكِنْ အကြောင်း

( مْ )၏ ဖတ်နည်းဥပဒေ (၃)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) اِدْغَامِشَفَوِىْ

(၂) اِخْفَاءِشَفَوِىْ

(၃) اِظْهَارِشَفَوِىْ - တို့ဖြစ်ပါသည်။

. . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . .

### (၁) اِدْغَامِشَفَوِىْ အကြောင်း

اِدْغَامِشَفَوِىْ ဆိုသည်မှာ مْ ၏အသံအား ၎င်း၏ နောက်တွင်ရှိသော مِيْمْ အက္ခရာထဲတွင် ညည်းသံနှင့်တကွ ပေါင်းစပ်၍ဖတ်ခြင်းကို ခေါ်ပါသည်။

**اِدْغَامِشَفَوِىْ ဥပဒေဖြစ်ပုံ။ ။**

مْ ၏နောက်တွင်( م )အက္ခရာလာပါက اِدْغَامِشَفَوِىْ ဥပဒေ ဖြစ်ပေမည်။

**ဥပမာ** ▶ وَلَكُمْ مَّاكَسَبْتُمْ ◀ ▶ اَمْ مَّنْ خَلَقْنَا

. . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . .

### (၂) اِخْفَاءِشَفَوِىْ အကြောင်း

اِخْفَاءِشَفَوِىْ ဆိုသည်မှာ مْ ၏အသံအား ဖုံးအုပ်၍ ညည်းဖတ်ခြင်းကို ခေါ်ပါသည်။[1]

**اِخْفَاءِشَفَوِىْ ဥပဒေဖြစ်ပုံ။ ။**

مْ ၏နောက်တွင်( ب )အက္ခရာလာပါက اِخْفَاءِشَفَوِىْ ဥပဒေ ဖြစ်ပေမည်။

**ဥပမာ** ▶ وَمَاهُمْ بِمُؤْمِنِيْنَ ◀ ▶ فَاحْكُمْ بَيْنَهُمْ

. . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . . .

1 اِخْفَاءِشَفَوِىْ ကို ဖတ်ရွတ်ရာတွင် နှုတ်ခမ်းနှစ်ခုအားပိတ်ပြီး ညည်းသံဖြင့် ဖတ်ရပေမည်။

## (၃) اِظْهَارِشَفَوِىْ အကြောင်း

اِظْهَارِشَفَوِىْ ဆိုသည်မှာ مْ ၏အသံအား မညည်းဘဲ ပေါ်လွင်ထင်ရှားစွာဖတ်ခြင်းကို ခေါ်ပါသည်။

**اِظْهَارِشَفَوِىْ ဥပဒေဖြစ်ပုံ။ ။**

مْ ၏နောက်တွင် (ب) နှင့် (م) အက္ခရာနှစ်လုံးမှအပ ကျန်အက္ခရာ(၂၆)လုံးအနက်မှ တစ်လုံးလုံးလာပါက اِظْهَارِشَفَوِىْ ဥပဒေ ဖြစ်ပေမည်။

| ဥပမာများ | | | | | |
|---|---|---|---|---|---|
| ت | اَلَمْ تَرَ | س | فَوْقَكُمْ سَبْعَ | ق | اَمْ قَوْمٌ |
| ث | اَمْثَالُكُمْ | ش | اَمْشَاجٍ | ك | اَمْ كُنْتُمْ |
| ج | اَمْ جَعَلُوْا | ص | كُنْتُمْ صَادِقِيْنَ | ل | اَمْ لَمْ |
| ح | اَمْ حَسِبْتَ | ض | هُمْ ضَلُّوْا | ن | وَلَكُمْ نِصْفُ |
| خ | ذٰلِكُمْ خَيْرٌ | ط | اَمْطَرْنَا | و | دِيْنُكُمْ وَلِيَ |
| د | لَكُمْ دِيْنُكُمْ | ظ | وَهُمْ ظَالِمُوْنَ | ه | اَنَّهُمْ هُمْ |
| ذ | بِهِمْ ذَرْعًا | ع | لَهُمْ عَذَابٌ | ء | اَلَمْ اَقُلْ |
| ر | وَامْرَاَتُهٗ | غ | عَلَيْهِمْ غَيْرِ | ى | لَمْ يَلِدْ |
| ز | اَمْ زَاغَتْ | ف | هُمْ فِيْهَا | | |

أحكام قراءة القرآن الكريم - جمال القرآن - معارف التجويد)



## အခန်း(၉) قَلْقَلَة အကြောင်း

قَلْقَلَة ဆိုသည်မှာ سَاكِنْ ဖြစ်နေသောအခြေအနေတွင် အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ ၌ အသံပိုပေါ်ပေါက်ခြင်းကို ခေါ်ပါသည်။ قَلْقَلَة ပြုလုပ်ရသောအက္ခရာ (၅)လုံး ရှိပါသည်။ ၎င်းအက္ခရာများမှာ - ( د، ج، ب، ط، ق ) - တို့ဖြစ်ပါသည်။ ၎င်းအက္ခရာ (၅)လုံးကို قُطْبُ جَدٍّ ဟူ၍လည်း အတိုကောက်မှတ်သားနိုင်ပေသည်။

قَلْقَلَة တွင် အဆင့်(၃)ဆင့်ရှိပါသည်။ ၎င်းတို့မှာ -

(၁) قَلْقَلَة အမြင့်ဆုံးအဆင့်

(၂) قَلْقَلَة ဒုတိယအဆင့်

(၃) قَلْقَلَة အနိမ့်ဆုံးအဆင့် - တို့ဖြစ်ပါသည်။

### (၁) قَلْقَلَة အမြင့်ဆုံးအဆင့်

قَلْقَلَة အမြင့်ဆုံးအဆင့်ဆိုသည်မှာ قَلْقَلَة အက္ခရာ(၅)လုံးအနက်မှ တစ်လုံးလုံးအား مُشَدَّدْ အဖြစ်နှင့် ရပ်နားသောပုံစံကို ခေါ်ပါသည်။

ဥပမာ ▶ وَتَبّ

### (၂) قَلْقَلَة ဒုတိယအဆင့်

قَلْقَلَة ဒုတိယအဆင့်ဆိုသည်မှာ قَلْقَلَة အက္ခရာ(၅)လုံးအနက်မှ တစ်လုံးလုံးအား سَاكِنْ အဖြစ်နှင့် ရပ်နားသောပုံစံကို ခေါ်ပါသည်။

ဥပမာ ▶ مَسَدْ

(၃) قَـلْـقَـلَـهْ အနိမ့်ဆုံးအဆင့်

قَـلْـقَـلَـهْ အနိမ့်ဆုံးအဆင့်ဆိုသည်မှာ قَـلْـقَـلَـهْ အက္ခရာ(၅)လုံးအနက်မှ တစ်လုံးလုံးအား မရပ်နားဘဲ سَاكِنْ ဖြစ်နေသောပုံစံကို ခေါ်ပါသည်။

**ဥပမာ** ▶ يَجْعَلُوْنَ

**မှတ်ချက်။** ။ قَـلْـقَـلَـهْ ၏ အမြင့်ဆုံးအဆင့်နှင့် ဒုတိယအဆင့်ကို قَـلْـقَـلَـهْ كُبْرٰى ဟုခေါ်ပြီး အနိမ့်ဆုံးအဆင့်ကို قَـلْـقَـلَـهْ صُغْرٰى ဟုခေါ်ပါသည်။

| ဥပမာ | အမြင့်ဆုံးအဆင့် | ဒုတိယအဆင့် | အနိမ့်ဆုံးအဆင့် |
|---|---|---|---|
| ق | بِالْحَقّ | بِرَبِّ الْفَلَقْ | يَقْطَعُوْنَ |
| ط | ~ | مُحِيْطْ | يُطْعِمُ |
| ب | وَتَبّ | اِذَا وَقَبْ | حَبْلٌ |
| ج | بِالْحَجّ | بَهِيْجْ | يَجْعَلُوْنَ |
| د | اَشَدّ | مَسَدْ | قَدْ كَانَ |

(أحكام قراءة القرآن الكريم)



## အခန်း(၁၀) تَـرْقِـيْـقْ နှင့် تَـفْـخِـيْـمْ အကြောင်း

تَـفْـخِـيْـمْ ဆိုသည်မှာ ထည်ဝါစွာဖတ်ခြင်းကို ခေါ်ဆိုပြီး تَـرْقِـيْـقْ ဆိုသည်မှာ ပါးလွှာစွာဖတ်ခြင်းကို ခေါ်ဆိုပါသည်။ အမြဲတမ်း تَـفْـخِـيْـمْ ဖြင့်ဖတ်ရသော အက္ခရာ(၇)လုံးရှိပါသည်။ ၎င်းအက္ခရာများမှာ - ( ظ، ق، ط، غ، ض، ص، خ ) - တို့ဖြစ်ပါသည်။ ၎င်းအက္ခရာ(၇)လုံးကို خُصَّ ضَغْطٍ قِظْ ဟူ၍လည်း အတိုကောက်မှတ်သားနိုင်ပေသည်။ ထိုအက္ခရာ(၇)လုံးကို حُـرُوْفِ مُـسْـتَـعْـلِـيَّـهْ ဟုခေါ်ပါသည်။

**မှတ်ချက်။ ။** حُـرُوْفِ مُـسْـتَـعْـلِـيَّـهْ စာလုံးများတွင် ( ـِ )ရှိပါက အနည်းငယ်သာ ထည်ဝါစွာ ဖတ်ရပေမည်။

حُـرُوْفِ مُـسْـتَـعْـلِـيَّـهْ (၇)လုံးမှအပ ကျန်အက္ခရာ(၂၂)လုံးကို အမြဲတမ်း تَـرْقِـيْـقْ ဖြင့် ဖတ်ရပေသည်။ ထိုအက္ခရာ(၂၂)လုံးကို حُـرُوْفِ مُـسْـتَـفِـلَـهْ ဟုခေါ်ပါသည်။

**မှတ်ချက်။ ။** حُـرُوْفِ مُـسْـتَـفِـلَـهْ (၂၂)လုံးအနက်မှ ( ل )နှင့်( ر )တို့ကို အချို့အခြေနေများတွင် تَـفْـخِـيْـمْ ဖြင့်ဖတ်ရပြီး အချို့အခြေနေများတွင် تَـرْقِـيْـقْ ဖြင့်ဖတ်ရပေမည်။

(مفتاح التجويد للمتعلم المستفيد - جمال القرآن)

### (၁) اَللّٰه စာလုံးတွင်ရှိသော ( ل )အက္ခရာ ဖတ်နည်းအကြောင်း

اَللّٰه စာလုံးတွင်ရှိသော ( ل )၏အလျင် (ـَ)(သို့)(ـُ) ရှိပါက ၎င်း( ل )ကို تَـفْـخِـيْـمْ ထည်ဝါစွာဖတ်ရမည်။

ဥပမာ ▶ هُوَاللّٰهُ ▶ نَصْرُاللّٰهِ

اَللّٰه စာလုံးတွင်ရှိသော ( ل )၏အလျင် (ـِ)ရှိပါက ၎င်း( ل )ကို تَـرْقِـيْـقْ ပါးလွှာစွာဖတ်ရမည်။

ဥပမာ ▶ لِلّٰهِ ▶ بِاللّٰهِ





اَللّٰهُمَّ စာလုံးတွင်ရှိသော ( ل )သည်လည်း اللّٰه စာလုံးတွင်ရှိသော ( ل )၏ ဥပဒေ အတိုင်းပင်ဖြစ်သည်။

**(تَفْخِيْمْ) ဖတ်ရမည့်ဥပမာ** ▶ قَالَ اللّٰهُمَّ ▶ قَالُوا اللّٰهُمَّ

**(تَرْقِيْقْ) ဖတ်ရမည့်ဥပမာ** ▶ قُلِ اللّٰهُمَّ

(المقدمة الجزرية - مفتاح التجويد للمتعلم المستفيد - جمال القرآن)

## (၂) ( ر )အက္ခရာ ဖတ်နည်းအကြောင်း

( ر )အက္ခရာ၏ ပုံစံ(၄)မျိုးရှိပါသည်။

**ပထမပုံစံ။ ။ (رَاء مُتَحَرِّكْ)**

( ر )အက္ခရာတွင် ( ـَـِـُ )ရှိနေသောပုံစံ။

**ဥပမာ** ▶ رَ رِ رُ

**ဒုတိယပုံစံ။ ။ (رَاء سَاكِنْ အလျင် حَرْكَتْ)**

( ر )အက္ခရာသည် سَاكِنْ ဖြစ်၍ ၎င်း၏ အလျင်အက္ခရာတွင် ( ـَـِـُ )ရှိနေသောပုံစံ။

**ဥပမာ** ▶ اَرْ، اِرْ، اُرْ

**တတိယပုံစံ။ ။ (رَاء سَاكِنْ အလျင် سَاكِنْ)**

ရပ်နားလိုက်သည့်အတွက်ကြောင့် ( ر )အက္ခရာသည် سَاكِنْ ဖြစ်၍ ၎င်း၏ အလျင်အက္ခရာ သည်လည်း سَاكِنْ ဖြစ်နေသောပုံစံ။

**ဥပမာ** ▶ فَجْرْ ▶ ذِكْرْ ▶ عُسْرْ

**စတုတ္ထပုံစံ။ ။ (رَاء مُشَدَّدْ)**

( ر )အက္ခရာတွင် ( ـّ )ရှိနေသောပုံစံ။

**ဥပမာ** ▶ اَرَّ، اِرَّ، اُرَّ





(၃) ပထမပုံစံ( ر )၏ ဥပဒေများ

( ر )အက္ခရာတွင် (ـَ)(သို့)(ـُ) ရှိပါက ၎င်း( ر )ကို تَفْخِيْمْ ထည်ဝါစွာဖတ်ရမည်။

ဥပမာ ▶ رَبَّكَ ▶ رُبَمَا

အကယ်၍ ( ر ) အက္ခရာတွင် (ـِ)ရှိပါက ၎င်း( ر )ကို تَرْقِيْقْ ပါးလွှာစွာဖတ်ရမည်။

ဥပမာ ▶ رِجَالٌ

(၄) ဒုတိယပုံစံ( ر )၏ ဥပဒေများ

( رْ )၏အလျင်၌ (ـَ)(သို့)(ـُ) ရှိပါက ၎င်း( رْ )ကို تَفْخِيْمْ ထည်ဝါစွာဖတ်ရမည်။

ဥပမာ ▶ وَكَفَرْ ▶ يُرْجَعُوْنَ ▶ يَرْجِعُوْنَ

အကယ်၍ ( رْ )၏အလျင်၌ (ـِ)ရှိပါက ၎င်း( رْ )ကို تَرْقِيْقْ ပါးလွှာစွာဖတ်ရမည်။

ဥပမာ ▶ مُذَّكِرْ ▶ فِرْعَوْنَ

**မှတ်ချက်။ ။** ၎င်း( رْ )၏အလျင်၌ (ـِ)ရှိပုံနှင့်ပတ်သက်၍ စည်းကမ်းချက်(၃)ချက် ရှိပါသည်။

(ပထမစည်းကမ်းချက်)

( رْ )၏အလျင်၌ရှိသော (ـِ)သည် မူရင်း(ـِ)ဖြစ်ရမည်။ အကယ်၍ ယာယီ(ـِ)ဖြစ်ပါက ၎င်း ( رْ )ကို تَرْقِيْقْ ဖြင့် မဖတ်ရ။ تَفْخِيْمْ ဖြင့်သာဖတ်ရမည်။

**မူရင်း(ـِ)၏ဥပမာ** ▶ فِرْعَوْنَ

**ယာယီ(ـِ)၏ဥပမာ** ▶ ارْجِعِيْ

(ဒုတိယစည်းကမ်းချက်)

( رْ )၏အလျင်၌ရှိသော (ـِ)သည် ( رْ )နှင့်အတူ စာလုံးတစ်လုံးထဲတွင် ဖြစ်ရမည်။ အကယ်၍ အခြားစာလုံးမှ (ـِ)ဖြစ်ပါက ၎င်း( رْ )ကို تَرْقِيْقْ ဖြင့် မဖတ်ရ။ تَفْخِيْمْ ဖြင့်သာဖတ်ရမည်။

**စာလုံးတစ်လုံးထဲမှ(ـِ)၏ဥပမာ** ▶ فِرْعَوْنَ

**အခြားစာလုံးမှ(ـِ)၏ဥပမာ** ▶ رَبِّ ارْحَمْهُمَا

(တတိယစည်းကမ်းချက်)

( رْ )အလျင်(ـِ)ရှိပုံ၏နောက်တွင် حُرُوْفِ مُسْتَعْلِيَّةْ (၇)လုံးအနက်မှ တစ်လုံးလုံးသည် စာလုံးတစ်လုံးထဲတွင် ကပ်လျက်မရှိရ။ အကယ်၍ရှိပါက ၎င်း( رْ )ကို تَرْقِيْقْ ဖြင့် မဖတ်ရ။ تَفْخِيْمْ ဖြင့်သာဖတ်ရမည်။

**(حُرُوْفِ مُسْتَعْلِيَّةْ) မရှိသောဥပမာ** ▶ فِرْعَوْنَ

**(حُرُوْفِ مُسْتَعْلِيَّةْ) ရှိသောဥပမာ** ▶ قِرْطَاسٍ

ဤဥပဒေ၏ ဥပမာသည် ကုရ်အာန်ကျမ်းမြတ်တစ်အုပ်လုံးတွင် (၅)လုံးသာရှိပါသည်။

**၎င်းတို့မှာ** ▶ قِرْطَاسٍ ▶ اِرْصَادًا ▶ مِرْصَادًا ▶ لَبِالْمِرْصَادْ ▶ فِرْقَةٌ

**မှတ်ချက်။(၁)။** فَانْفَلَقَ فَكَانَ كُلُّ فِرْقٍ كَالطَّوْدِ الْعَظِيْمِ ○ (စူရဟ်ရှုအရာအ်၊ အာယသ် ၆၃)တွင် ပါရှိသော فِرْقٍ ၏ ( رْ )ကိုမူ تَفْخِيْمْ (သို့) تَرْقِيْقْ နှစ်မျိုးစလုံးဖြင့် ဖတ်ပိုင်ခွင့်ရှိပေသည်။

**မှတ်ချက်။(၂)။** ( رْ )အလျင် (ـِ)ရှိပုံ၏နောက်တွင် حُرُوْفِ مُسْتَعْلِيَّةْ (၇)လုံးအနက်မှ တစ်လုံးလုံးသည် စာလုံးတစ်လုံးထဲတွင် မဟုတ်ဘဲ အခြားစာလုံးတွင်လာရှိပါက ၎င်း( رْ )ကို تَرْقِيْقْ ပါးလွှာစွာဖတ်ရမည်။

**ဥပမာ** ▶ وَاَنْذِرْ قَوْمَكَ

(၅) တတိယပုံစံ( ر )၏ ဥပဒေများ

ရပ်နားသည့်အတွက်ကြောင့် ( ر )အက္ခရာသည် سَاكِنْ ဖြစ်သွားပြီး ၎င်း( رْ )၏ အလျင်အက္ခရာသည်လည်း سَاكِنْ ဖြစ်နေပါက ယင်းအက္ခရာ၏အလျင် (တတိယမြောက်) အက္ခရာကို ကြည့်ရမည်။ တတိယမြောက်အက္ခရာတွင် (ـَ)(သို့)(ـُ)ရှိပါက ၎င်း( رْ )ကို تَفْخِيْمْ ထည်ဝါစွာရပ်ရမည်။

ဥပမာ ▶ وَالْفَجْرْ ▶ بِكُمُ الْعُسْرْ

အကယ်၍ တတိယမြောက်အက္ခရာတွင် (ـِ)ရှိပါက ၎င်း( رْ )ကို تَرْقِيْقْ ပါးလွှာစွာ ရပ်ရမည်။

ဥပမာ ▶ ذِي الذِّكْرْ

**မှတ်ချက်။(၁)။** ( يْ )၏နောက်တွင် လာရှိသော( ر )ကို سَاكِنْ အဖြစ်နှင့် ရပ်နားမည်ဆိုပါက တတိယမြောက်အက္ခရာကိုကြည့်ရန် မလိုအပ်ပါ။ ၎င်း( رْ )ကို تَرْقِيْقْ ပါးလွှာစွာရပ်ရမည်။

ဥပမာ ▶ قَدِيْرْ ▶ خَيْرْ

**မှတ်ချက်။(၂)။** ရပ်နားမည့်( ر )နှင့် (ـِ)၏ကြားတွင် حُرُوْفِ مُسْتَعْلِيَّةْ (၇)လုံးအနက်မှ တစ်လုံးလုံးသည် سَاكِنْ အဖြစ်နှင့် လာရှိပါက ၎င်း( رْ )ကို تَفْخِيْمْ (သို့) تَرْقِيْقْ နှစ်မျိုး စလုံးဖြင့် ရပ်ပိုင်ခွင့်ရှိပေသည်။

ဥပမာ ▶ عَيْنَ الْقِطْرْ ▶ مِصْرْ

(၆) စတုတ္ထပုံစံ( ر )၏ ဥပဒေများ

( رّ )တွင် မရပ်နားဘဲ ဆက်ဖတ်ပါက ၎င်း( رّ )၏ အလျင်အက္ခရာကို ကြည့်ရန်မလိုအပ်ပါ။ ဆက်ဖတ်လိုက်သော( رّ )တွင် (ـَ)(သို့)(ـُ)ရှိပါက ၎င်း( رّ )ကို تَفْخِيْمْ ထည့်ဝါစွာဖတ်ရမည်။

ဥပမာ ▶ ضَرًّا ◀ لَا يَضُرُّ

အကယ်၍ (ـِ)ရှိပါက ၎င်း( رّ )ကို تَرْقِيْقْ ပါးလွှာစွာဖတ်ရမည်။

ဥပမာ ▶ ذُرِّيَّةٌ ◀ شَرِّ

( رّ )တွင်ရပ်နားပါက ၎င်း( رّ )၏ အလျင်အက္ခရာကို ကြည့်ရမည်။ ရပ်နားလိုက်သော ( رّ )၏အလျင် (ـَ)(သို့)(ـُ)ရှိပါက ၎င်း( رّ )ကို تَفْخِيْمْ ထည့်ဝါစွာဖတ်ရမည်။

ဥပမာ ▶ مُسْتَقَرّ ◀ يَضُرّ

အကယ်၍ (ـِ)ရှိပါက ၎င်း( رّ )ကို تَرْقِيْقْ ပါးလွှာစွာဖတ်ရမည်။

ဥပမာ ▶ مُسْتَمِرّ

(مفتاح التجويد للمتعلم المستفيد - جمال القرآن - معارف التجويد)



## အခန်း(၁၁) مَدّ အကြောင်း

مَدّ ဆိုသည်မှာ حُرُوْفِ مَدَّة နှင့် حُرُوْفِ لِيْن တို့အား ဆွဲ၍ဖတ်ခြင်းကို ခေါ်ပါသည်။ حُرُوْفِ مَدَّة (၃)လုံးရှိပါသည်။ ၎င်းတို့မှာ -

(၁) ( ا ) အလျင် (ـَ)ရှိပုံ။ (ـَا)

(၂) ( ىْ ) အလျင် (ـِ)ရှိပုံ။ (ـِىْ)

(၃) ( وْ ) အလျင် (ـُ)ရှိပုံ။ (ـُوْ)

- တို့ဖြစ်ပါသည်။

ဥပမာ ▶ نُوْحِيْهَا ◀ أُوْتِيْنَا ◀ أُوْذِيْنَا

(ـٰ ـٖ ـٗ)တို့သည်လည်း حُرُوْفِ مَدَّة ဖြစ်သည်။ အကြောင်းမှာ -

(ـٰ)သည် ( ـَا )၏ ကိုယ်စားဖြစ်သည်။ ▶ بٰ ▶ بَا ▶ ဘာ

(ـٖ)သည် (ـِىْ)၏ ကိုယ်စားဖြစ်သည်။ ▶ بٖ ▶ بِىْ ▶ ဘီ

(ـٗ)သည် ( ـُوْ )၏ ကိုယ်စားဖြစ်သည်။ ▶ بٗ ▶ بُوْ ▶ ဘူ

(معارف التجويد)

### (၁) (مِقْدَارُالْمَدِّ) مَدّ ၏ အတိုင်းအတာများ

مَدّ ဆွဲရမည့် အတိုင်းအတာပုံစံ (၃)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) طُوْل - ၎င်း၏အတိုင်းအတာမှာ အလိဖ် (၃)လုံးခန့် (သို့) (၅)လုံးခန့်ဖြစ်သည်။

(၂) تَوَسُّط - ၎င်း၏အတိုင်းအတာမှာ အလိဖ် (၂)လုံးခန့် (သို့) (၃)လုံးခန့်ဖြစ်သည်။

(၃) قَصْر - ၎င်း၏အတိုင်းအတာမှာ အလိဖ် (၁)လုံးခန့်ဖြစ်သည်။[1]

(فوائد مكية)

1 အလိဖ်(၁)လုံး၏ အတိုင်းအတာသည် မနှေးမမြန်ဘဲ ဆန့်ထားသောလက်ချောင်းအား ကွေးခြင်း (သို့) ကွေးထားသောလက်ချောင်းအား ဆန့်ခြင်း၏ ကြာချိန်ခန့် အတိုင်းအတာကို ခေါ်ပါသည်။

**(၂) ( اَقْسَامُ الْمَدِّ ) مَدّ ၏ အမျိုးအစားများ**

مَدّ (၂)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(က) مَدِّ اَصْلِي (မူရင်းမဒ်)

(ခ) مَدِّ فَرْعِي (ဆင့်ပွားမဒ်) - တို့ဖြစ်ပါသည်။

**(က) مَدِّ اَصْلِي အကြောင်း**

مَدِّ اَصْلِي ဆိုသည်မှာ حُرُوْفِ مَدَّة ၏နောက်တွင် هَمْزَة (သို့) سُكُوْن မလာသော مَدّ ကို ခေါ်ပါသည်။ ၎င်းကို အလိဖ်(၁)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ ( قَصْر )

ဥပမာ ▶ نُوْحِيْهَا

**(ခ) مَدِّ فَرْعِي အကြောင်း**

مَدِّ فَرْعِي ဆိုသည်မှာ حُرُوْفِ مَدَّة ၏နောက်တွင် هَمْزَة (သို့) سُكُوْن လာသော مَدّ ကို ခေါ်ပါသည်။ مَدِّ فَرْعِي (၄)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) مَدِّ مُنْفَصِل

(၂) مَدِّ مُتَّصِل

(၃) مَدِّ عَارِض

(၄) مَدِّ لَازِم - တို့ဖြစ်ပါသည်။

## (၃) مَدِّ مُنْفَصِلْ အကြောင်း

مَدِّ مُنْفَصِلْ ဆိုသည်မှာ حُرُوْفِ مَدَّةْ ၏နောက်တွင် (အခြားစာလုံး၏အစ၌) (ا)အလိဖ်ပုံစံဖြင့် ရေးသားထားသည့် هَمْزَةْ လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ مَدَّةْ ကို အလိဖ်(၁)လုံး (သို့) (၃)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (قَصْر، تَوَسُّط)

ဥပမာ ▶ بِمَآ اُنْزِلَ ▶ قُوْٓا اَنْفُسَكُمْ ▶ بِهٖٓ اِلَّا

## (၄) مَدِّ مُتَّصِلْ အကြောင်း

مَدِّ مُتَّصِلْ ဆိုသည်မှာ حُرُوْفِ مَدَّةْ ၏နောက်တွင် (စာလုံးတစ်လုံးထဲ၌) (ء) လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ مَدَّةْ ကို အလိဖ်(၃)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (تَوَسُّط)

ဥပမာ ▶ سُوْٓءٍ ▶ سِيْٓـَٔتُ ▶ جَآءَ

## (၅) مَدِّ عَارِضْ အကြောင်း

مَدِّ عَارِضْ ဆိုသည်မှာ حُرُوْفِ مَدَّةْ ၏နောက်တွင် ( سُكُوْنِ وَقْفِي )[1] လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ مَدَّةْ ကို အလိဖ်(၅)လုံး (သို့) (၃)လုံး (သို့) (၁)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ အလိဖ်(၅)လုံးခန့် ဆွဲ၍ဖတ်ခြင်းသည် ပိုကောင်းပေသည်။ (طُوْل، تَوَسُّط، قَصْر)

ဥပမာ ▶ نَسْتَعِيْنُ ▶ مَتَابْ ▶ مُهْتَدُوْنْ

1 سُكُوْنِ وَقْفِي ဆိုသည်မှာ ရပ်နားခြင်းကြောင့်ဖြစ်ပေါ်လာသော سُكُوْنْ ကို ခေါ်ပါသည်။

### (၆) مَدِّ لَازِمْ အကြောင်း

مَدِّ لَازِمْ ဆိုသည်မှာ حُرُوْفِ مَدَّهْ ၏နောက်တွင် ( سُكُوْنِ اَصْلِىْ )[1] လာသော مَدْ ကို ခေါ်ပါသည်။ مَدِّ لَازِمْ (၄)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) مَدِّ لَازِمْ كَلِمِىْ مُثَقَّلْ

(၂) مَدِّ لَازِمْ كَلِمِىْ مُخَفَّفْ

(၃) مَدِّ لَازِمْ حَرْفِىْ مُثَقَّلْ

(၄) مَدِّ لَازِمْ حَرْفِىْ مُخَفَّفْ - တို့ဖြစ်ပါသည်။

### (၇) مَدِّ لَازِمْ كَلِمِىْ مُثَقَّلْ အကြောင်း

مَدِّ لَازِمْ كَلِمِىْ مُثَقَّلْ ဆိုသည်မှာ حُرُوْفِ مَدَّهْ ၏နောက်တွင် (ـّـ)လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ مَدَّهْ ကို အလိဖ်(၅)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (طُوْلْ)

ဥပမာ ▶ وَلَا الضَّآلِّيْنَ ▶ اَتُحَآجُّوْنِّىْ ▶ دَآبَّةٌ

### (၈) مَدِّ لَازِمْ كَلِمِىْ مُخَفَّفْ အကြောင်း

مَدِّ لَازِمْ كَلِمِىْ مُخَفَّفْ ဆိုသည်မှာ حُرُوْفِ مَدَّهْ ၏နောက်တွင် (ـْـ)လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ مَدَّهْ ကို အလိဖ်(၅)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (طُوْلْ)[1(2)]

ဥပမာ ▶ آٰلْـٰٔنَ

---

1 سُكُوْنِ اَصْلِىْ ဆိုသည်မှာ ရပ်နားသည့်အခါ၌ဖြစ်စေ၊ ဆက်ဖတ်သည့်အခါ၌ ဖြစ်စေ အမြဲတည်ရှိနေသော မူလ سُكُوْنْ ကို ခေါ်ပါသည်။

1(2) مَدِّ لَازِمْ كَلِمِىْ مُخَفَّفْ သည် ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံးတွင် ဤ(၁)လုံးသာ စူရဟ်ယူနွတ်စ်၏ နှစ်နေရာ၌ လာရှိပါသည်။

## (၉) مَدِّ لَازِمْ حَرْفِی مُثَقَّلْ အကြောင်း

حُرُوْفِ مَدَّهْ ဆိုသည်မှာ حُرُوْفِ مُقَطَّعَاتْ တွင်ရှိသော مَدِّ لَازِمْ حَرْفِی مُثَقَّلْ ၏နောက်တွင် (ـّ)လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ مَدَّهْ ကို အလိဖ်(၅)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (طُوْلْ)[1]

ဥပမာ ▶ الٓمّٓ، الٓمّٓصٓ، الٓمّٓر တို့တွင်ရှိသော لَامْ ▶ طٰسٓمّٓ တွင်ရှိသော سِيْنْ

## (၁၀) مَدِّ لَازِمْ حَرْفِی مُخَفَّفْ အကြောင်း

حُرُوْفِ مَدَّهْ ဆိုသည်မှာ حُرُوْفِ مُقَطَّعَاتْ တွင်ရှိသော مَدِّ لَازِمْ حَرْفِی مُخَفَّفْ ၏နောက်တွင် (ـْ)လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ مَدَّهْ ကို အလိဖ်(၅)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (طُوْلْ)[1(2)]

ဥပမာ ▶ الٓمّٓ တွင်ရှိသော مِيْمْ ▶ نٓ ▶ قٓ

(جمال القرآن - معارف التجويد)

---

1 الٓمّٓ ၏မူရင်းသည် اَلِفْ لَامْ مِيْمْ ဟူ၍ရှိသည်။ الٓمّٓ ၏ لَامْ တွင်ရှိသော (ـَا)သည် حُرُوْفِ مَدَّهْ ဖြစ်သည်။ ထို့ပြင် لَامْ တွင်ရှိသော (مْ)၏နောက်တွင် (م)လာသောကြောင့် ၎င်း(مْ)ကို (م)ထဲတွင် اِدْغَامْ ပြုလုပ်လိုက်ပါက اَلِفْ لَامّ مِيْمْ ဟူ၍ ဖြစ်သွားပေသည်။

طٰسٓمّٓ ၏မူရင်းသည် طَا سِيْنْ مِيْمْ ဟူ၍ရှိသည်။ سِيْنْ တွင်ရှိသော (ـِيْ)သည် حُرُوْفِ مَدَّهْ ဖြစ်သည်။ ထို့ပြင် سِيْنْ တွင်ရှိသော (نْ)၏နောက်တွင် (م)လာသောကြောင့် ၎င်း(نْ)ကို (م)ထဲတွင် اِدْغَامْ ပြုလုပ်လိုက်ပါက طَا سِيْمّ مِيْمْ ဟူ၍ ဖြစ်သွားပေသည်။

مَدِّ لَازِمْ حَرْفِی مُثَقَّلْ သည် ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံးတွင် ဤ(၄)လုံးသာ လာရှိပါသည်။

1(2) نٓ ၏မူရင်းသည် نُوْنْ ဟူ၍ရှိသည်။ نُوْنْ တွင်ရှိသော (ـُوْ)သည် حُرُوْفِ مَدَّهْ ဖြစ်သည်။

## (၁၁) مَدِّلِيْنْ အကြောင်း

مَدِّلِيْنْ ဆိုသည်မှာ حُرُوْفِ لِيْنْ ၏နောက်တွင် سُكُوْنْ လာသော مَدْ ကို ခေါ်ပါသည်။ حُرُوْفِ لِيْنْ (၂)လုံးရှိပါသည်။ ၎င်းတို့မှာ -

(၁) (يْ) အလျင် (ـَ)ရှိပုံ။ (ـَيْ)

(၂) (وْ) အလျင် (ـَ)ရှိပုံ။ (ـَوْ) - တို့ဖြစ်ပါသည်။

ဥပမာ ▶ حَوْلَيْنِ

مَدِّلِيْنْ (၂)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) مَدِّلِيْنْ لَازِمْ

(၂) مَدِّلِيْنْ عَارِضْ - တို့ဖြစ်ပါသည်။

## (၁၂) مَدِّلِيْنْ لَازِمْ အကြောင်း

مَدِّلِيْنْ لَازِمْ ဆိုသည်မှာ حُرُوْفِ مُقَطَّعَاتْ တွင်ရှိသော حُرُوْفِ لِيْنْ ၏နောက်တွင် (ـْ)လာသော مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ لِيْنْ ကို အလိဖ်(၅)လုံး (သို့) (၃)လုံး (သို့) (၁)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ အလိဖ်(၅)လုံးခန့် ဆွဲ၍ဖတ်ခြင်းသည် ပိုကောင်းပေသည်။ (طُوْلْ، تَوَسُّطْ، قَصَرْ)[1]

ဥပမာ ▶ كٓهٰيٰعٓصٓ، حٰمٓ عٓسٓقٓ တို့တွင်ရှိသော عَيْنْ

1 مَدِّلِيْنْ لَازِمْ သည် ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံးတွင် ဤ(၂)လုံးသာ လာရှိပါသည်။

2 ကျန် مَدْ (၃)မျိုးအကြောင်းကို စာမျက်နှာ(၇၁)တွင် ဖော်ပြထားပါသည်။

## (၁၃) مَدِّ لِيْنْ عَارِضْ အကြောင်း

سُكُوْنِ وَقْفِى ဆိုသည်မှာ حُرُوْفِ لِيْنْ ၏နောက်တွင် سُكُوْنِ وَقْفِى လာသော مَدِّ لِيْنْ عَارِضْ مَدْ ကို ခေါ်ပါသည်။

ထိုအခါတွင် حُرُوْفِ لِيْنْ ကို အလိဖ်(၁)လုံး (သို့) (၃)လုံး (သို့) (၅)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ အလိဖ်(၁)လုံးခန့် ဆွဲ၍ဖတ်ခြင်းသည် ပိုကောင်းပေသည်။ (قَصَرْ، تَوَسُّطْ، طُوْلْ)

ဥပမာ ▶ قُرَيْشْ ▶ وَالصَّيْفْ ▶ مِنْ خَوْفْ

(جمال القرآن - معارف التجويد)

## (၁၄) حُرُوْفِ مُقَطَّعَاتْ အကြောင်း

حُرُوْفِ مُقَطَّعَاتْ ဆိုသည်မှာ စူရဟ်(၂၉)ခု၏ အစ၌ သီးခြားစီဖတ်ရသော အက္ခရာများကို ခေါ်ပါသည်။ ထိုသို့ဖတ်ရသောအက္ခရာ (၁၄)လုံးရှိပါသည်။ ၎င်းတို့မှာ -

س ، ن ، ق ، ص ، ع ، ل ، م ، ك ، ح ، ى ، ط ، ا ، ہ ، ر

၎င်းအက္ခရာ(၁၄)လုံးကို سَنَقُصُّ عِلْمَكَ حَيٌّ طَاهِرٌ ဟူ၍လည်း အတိုကောက်မှတ်သားနိုင်ပေသည်။

၎င်းအက္ခရာ(၁၄)လုံးအနက် ( ا )အလိဖ်မှအပ ကျန်အက္ခရာ(၁၃)လုံးသည် مَدْ ဖြစ်သည်။ ၎င်းတို့မှာ -

س ، ن ، ق ، ص ، ع ، ل ، م ، ك ، ح ، ى ، ط ، ہ ، ر

၎င်းအက္ခရာ(၁၃)လုံးကို سَنَقُصُّ عِلْمَكَ حَيٌّ طَهُرَ ဟူ၍လည်း အတိုကောက်မှတ်သားနိုင်ပေသည်။

၎င်းအက္ခရာ(၁၃)လုံးအနက်မှ (၅)လုံးသည် مَدِّ اَصْلِى ဖြစ်သည်။ ၎င်းတို့မှာ -

ح ، ى ، ط ، ہ ، ر

၎င်းအက္ခရာ(၅)လုံးကို حَيٌّ طَهُرَ ဟူ၍လည်း အတိုကောက်မှတ်သားနိုင်ပေသည်။

ကျန်အက္ခရာ(၈)လုံးသည် مَدٌّ لَازِمٌ ဖြစ်သည်။ ၎င်းတို့မှာ -

س ، ن ، ق ، ص ، ع ، ل ، م ، ك

၎င်းအက္ခရာ(၈)လုံးကို سَنَقُصُّ عِلْمَكَ ဟူ၍လည်း အတိုကောက်မှတ်သားနိုင်ပေသည်။

၎င်းအက္ခရာ(၈)လုံးအနက်မှ ( ع )အက္ခရာသာလျှင် مَدٌّ لِيْنٌ لَازِمٌ ဖြစ်ပြီး ကျန်အက္ခရာ(၇)လုံးသည် مَدٌّ لَازِمٌ حَرْفِيٌّ အမျိုးအစားများ ဖြစ်ပေသည်။

| စုစုပေါင်း(၂၉)ခု၏ အစ၌လာရှိသော حُرُوْفِ مُقَطَّعَاتُ များ | | | |
|---|---|---|---|
| حٰمٓ<br>(၆) နေရာ | صٓ<br>(၁) နေရာ | قٓ<br>(၁) နေရာ | نٓ<br>(၁) နေရာ |
| الٓمٓ<br>(၆) နေရာ | طٰهٰ<br>(၁) နေရာ | طٰسٓ<br>(၁) နေရာ | يٰسٓ<br>(၁) နေရာ |
| الٓمٓصٓ<br>(၁) နေရာ | الٓمٓرٰ<br>(၁) နေရာ | الٓرٰ<br>(၅) နေရာ | طٰسٓمٓ<br>(၂) နေရာ |
| | حٰمٓ عٓسٓقٓ<br>(၁) နေရာ | كٓهٰيٰعٓصٓ<br>(၁) နေရာ | |

(مستفاد : مفتاح التجويد للمتعلم المستفيد - معارف التجويد)



## အခန်း(၁၂) لَحْنْ အကြောင်း

لَحْنْ ဆိုသည်မှာ သဂ်ျဝီးဒ်ဥပဒေများနှင့် ဆန့်ကျင်၍ ရွတ်ဖတ်ခြင်းကို ခေါ်ပါသည်။

لَحْنْ (၂)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) لَحْنِ جَلِىْ (အမှားကြီး)

(၂) لَحْنِ خَفِىْ (အမှားလေး)

- တို့ဖြစ်ပါသည်။

---

### (၁) لَحْنِ جَلِىْ အကြောင်း

لَحْنِ جَلِىْ ဆိုသည်မှာ စာလုံးများတွင် သဒ္ဒါ၊ စာပေဆိုင်ရာဥပဒေများ ပျက်ပြားခြင်းနှင့် ရွတ်ဖတ်မှုစံနှုန်းများ ပျက်ပြားခြင်းတို့ကို ခေါ်ပါသည်။

**لَحْنِ جَلِىْ ဖြစ်စေတတ်သော ပုံစံ(၇)မျိုး။ ။**

(၁) အက္ခရာတစ်ခုအား အခြားအက္ခရာတစ်ခုဖြင့် ပြောင်းလဲ၍ ဖတ်သည့်ပုံစံ။

ဥပမာ ▶ اَلْحَمْدُ အား اَلْهَمْدُ ဟုဖတ်ခြင်း။

(၂) حَرَكَتْ ပါရှိသောအက္ခရာအား (ـْ)ဖြင့်ဖတ်သည့်ပုံစံ။

ဥပမာ ▶ فَجَعَلَهُمْ အား فَجْعَلْهُمْ ဟုဖတ်ခြင်း။

(၃) (ـْ)ပါရှိသောအက္ခရာအား حَرَكَتْ ဖြင့်ဖတ်သည့်ပုံစံ။

ဥပမာ ▶ اَلْحَمْدُ အား اَلْحَمَدُ ဟုဖတ်ခြင်း။

(၄) حَرَكَتْ ကို حُرُوْفِ مَدَّةْ ဖြစ်လာအောင်ဆွဲဖတ်သည့်ပုံစံ။

ဥပမာ ▶ نَعْبُدُ အား نَعْبُدُوْ ဟုဖတ်ခြင်း။

(၅) حُرُوْفِ مَدَّةْ ကို ဖြုတ်ဖတ်သည့်ပုံစံ။

ဥပမာ ▶ لَا يَعْلَمُ အား لَيَعْلَمُ ဟုဖတ်ခြင်း။

(၆) (ـّ)ပါရှိသောအက္ခရာကို (ـّ)ဖြုတ်ဖတ်သည့်ပုံစံ။

ဥပမာ ▶ اِنَّكُنَّ အား اِنْكُنَّ ဟုဖတ်ခြင်း။

(၇) (ـّ)မပါရှိသောအက္ခရာကို (ـّ)ဖြင့်ဖတ်သည့်ပုံစံ။

ဥပမာ ▶ اَلَآاِنَّـهُمْ အား اَلَّآاِنَّـهُمْ ဟုဖတ်ခြင်း။

**لَحْنِ جَلِى ၏ အဓိပ္ပာယ်နှင့်ဆိုင်သောအချက်။ ။**

لَحْنِ جَلِى ဖြင့် ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်ခြင်း၊ နားထောင်ခြင်းသည် ဟာရာမ် ဖြစ်ပြီး အချို့အခြေနေများတွင် နမားဇ်ပျက်စေနိုင်ပေသည်။ ထို့ကြောင့် ရှောင်ရှားရန် အလွန်ပင် အရေးကြီးလှပေသည်။

(أحكام قراءة القرآن الكريم - معارف التجويد)

## (၂) لَحْنِ خَفِى အကြောင်း

لَحْنِ خَفِى ဆိုသည်မှာ သဂျ်ဝီးဒ်ပညာရပ်၏ အချို့သော ဥပဒေများအား ချိုးဖောက် ခြင်းဖြင့် ပေါ်ပေါက်လာသော အမှားအယွင်းကို ခေါ်ပါသည်။ ထိုသို့မှားယွင်းမှုတွင် အဓိပ္ပါယ်၊ သဒ္ဒါနှင့် စာပေအသုံးအနှုန်းများ ပျက်ပြားခြင်းမရှိပေ။

**لَحْنِ خَفِى ဖြစ်စေတတ်သော ပုံစံအချို့။ ။**

(၁) اِظْهَارْ ကို اِخْفَاءْ လုပ်ခြင်း (သို့) اِخْفَاءْ ကို اِظْهَارْ လုပ်ခြင်း။

(၂) تَفْخِيْمْ ကို تَرْقِيْقْ လုပ်ခြင်း (သို့) تَرْقِيْقْ ကို تَفْخِيْمْ လုပ်ခြင်း။

(၃) مَدْ ဆွဲရမည့်အတိုင်းအတာများကို လျှော့ဆွဲခြင်း (သို့) ပိုဆွဲခြင်း။

**لَحْنِ خَفِى ၏ အဓိပ္ပာယ်နှင့်ဆိုင်သောအချက်။ ။**

لَحْنِ خَفِى ဖြင့် ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်ခြင်း၊ နားထောင်ခြင်းသည် မက္ကရူဟ် ဖြစ်ပြီး နမားဇ်တွင်လည်း မက္ကရူဟ်ဖြစ်ပေမည်။ ထို့ကြောင့် ရှောင်ရှားရန် အရေးကြီးလှပေ သည်။

(معارف التجويد)





## အခန်း(၁၃) ( اَلْ ) တွင်ရှိသော ( ل ) ၏ဥပဒေများအကြောင်း

**ဥပဒေ။(၁)။**

အောက်ပါအက္ခရာ(၁၄)လုံးအနက်မှ တစ်လုံးလုံး၏ အလျင်၌ ( اَلْ )လာရှိပါက ၎င်း ( اَلْ )တွင်ရှိသော ( ل )၏အသံကို اِظْهَارْ ပေါ်လွင်ထင်ရှားစွာဖတ်ရမည်။

၎င်းအက္ခရာများမှာ -

ا ، ب ، غ ، ح ، ج ، ك ، و ، خ ، ف ، ع ، ق ، ى ، م ، ه

၎င်းအက္ခရာ(၁၄)လုံးကို اِبْغِ حَجَّكَ وَخَفْ عَقِيْمَهٗ ဟူ၍လည်း အတိုကောက် မှတ်သားနိုင်ပေသည်။ ထိုအက္ခရာ(၁၄)လုံးကို حُرُوْفِ قَمَرِيَّهٗ ဟုခေါ်ပါသည်။

ဥပမာ ▶ اَلْقَمَرُ ◀ اَلْاَرْضُ ◀ اَلْبَلَدُ

**ဥပဒေ။(၂)။**

အောက်ပါအက္ခရာ(၁၄)လုံးအနက်မှ တစ်လုံးလုံး၏ အလျင်၌ ( اَلْ )လာရှိပါက ၎င်း ( اَلْ )တွင်ရှိသော ( ل )၏အသံကို မပေါ်လွင်စေဘဲ اِدْغَامْ ပေါင်းစပ်၍ဖတ်ရမည်။။

၎င်းအက္ခရာများမှာ -

ت ، ث ، د ، ذ ، ر ، ز ، س ، ش ، ص ، ض ، ط ، ظ ، ل ، ن

ထိုအက္ခရာ(၁၄)လုံးကို حُرُوْفِ شَمْسِيَّهٗ ဟုခေါ်ပါသည်။

ဥပမာ ▶ اَلشَّمْسُ ◀ اَلطَّارِقُ ◀ اَلثَّقَلَانِ

(معارف التجويد)

## အခန်း(၁၄) ( اَقْسَامُ الْاِدْغَامْ ) اِدْغَامْ ၏ အမျိုးအစားများ

اِدْغَامْ ဆိုသည်မှာ سَاكِنْ ဖြစ်နေသော အက္ခရာအား مُتَحَرِّكْ ဖြစ်နေသော အက္ခရာထဲတွင် ပေါင်းစပ်၍ဖတ်ခြင်းကို ခေါ်ပါသည်။ ထိုသို့ပေါင်းစပ်ခြင်းကြောင့် အက္ခရာနှစ်ခုသည် (ـّـ)ပါရှိသော အက္ခရာတစ်ခု ဖြစ်သွားပေသည်။

اِدْغَامْ (၃)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) اِدْغَامِ مُتَمَاثِلَيْنْ

(၂) اِدْغَامِ مُتَجَانِسَيْنْ

(၃) اِدْغَامِ مُتَقَارِبَيْنْ - တို့ဖြစ်ပါသည်။

### (၁) اِدْغَامِ مُتَمَاثِلَيْنْ အကြောင်း

اِدْغَامِ مُتَمَاثِلَيْنْ ဆိုသည်မှာ အမျိုးတူသော အက္ခရာနှစ်လုံးအား ပေါင်းစပ်ခြင်းကို ခေါ်ပါသည်။

ဥပမာ ▶ اِذْذَّهَبَ ◀ وَقَدْدَّخَلُوْا ◀ يُدْرِكْكُّمُ الْمَوْتُ

**မှတ်ချက်။ ။** အမျိုးတူသော အက္ခရာနှစ်လုံးသည် စာလုံးကွဲ၍ ပထမအက္ခရာသည် حُرُوْفِ مَدَّهْ ဖြစ်နေပါက اِدْغَامِ مُتَمَاثِلَيْنْ မဖြစ်ပါ။

ဥပမာ ▶ فِيْ يَوْمَيْنِ

### (၂) اِدْغَامِ مُتَجَانِسَيْنْ အကြောင်း

اِدْغَامِ مُتَجَانِسَيْنْ ဆိုသည်မှာ مَخْرَجْ တူသော အက္ခရာနှစ်လုံးအား ပေါင်းစပ်ခြင်းကို ခေါ်ပါသည်။

ဥပမာ ▶ قَدْ تَّبَيَّنَ ◀ اِذْ ظَّلَمْتُمْ ◀ فَرَّطْتُّمْ

**မှတ်ချက်။ ။** ပထမအက္ခရာသည် حُرُوْفِ حَلْقِيَّهْ (၆)လုံးအနက်မှ တစ်လုံးလုံးဖြစ်နေပါက إِدْغَامِ مُتَجَانِسَيْنْ မဖြစ်ပါ။

ဥပမာ ▶ فَاصْفَحْ عَنْهُمْ

## (၃) إِدْغَامِ مُتَقَارِبَيْنْ အကြောင်း

إِدْغَامِ مُتَقَارِبَيْنْ ဆိုသည်မှာ مَخْرَجْ နီးစပ်သော အက္ခရာနှစ်လုံးအား ပေါင်းစပ်ခြင်းကို ခေါ်ပါသည်။

ဥပမာ ▶ مِنْ لَّدُنْهُ ▶ يَابُنَيَّ ارْكَبْ مَّعَنَا ▶ اَلَمْ نَخْلُقْكُّمْ

**မှတ်ချက်။ ။** ပထမအက္ခရာသည် حُرُوْفِ حَلْقِيَّهْ (၆)လုံးအနက်မှ တစ်လုံးလုံးဖြစ်နေပါက إِدْغَامِ مُتَقَارِبَيْنْ မဖြစ်ပါ။

ဥပမာ ▶ لَا تُزِغْ قُلُوْبَنَا

(معارف التجويد)



## အခန်း(၁၅) تَسْمِيَّةُ နှင့် تَعَوُّذْ ဖတ်ခြင်းအကြောင်း

**(تَعَوُّذْ) اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمُ ဖတ်ရမည့်အမိန့်**

ကျမ်းမြတ်ကုရ်အာန်ကို မည်သည့်နေရာမှပင်ဖြစ်စေ စတင်ရွတ်ဖတ်ပါက تَعَوُّذْ ဖတ်ရန် အရေးကြီးပေသည်။

**(تَسْمِيَّةُ) بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمُ ဖတ်ရမည့်အမိန့်**

စူရဟ်တစ်ပုဒ်ပုဒ်ကို စတင်ရွတ်ဖတ်ပါက (သို့) ရွတ်ဖတ်နေရင်း အခြားစူရဟ်တစ်ပုဒ်ပုဒ်၏ အစသို့ ရောက်လာပါက تَسْمِيَّةُ ဖတ်ရန် အရေးကြီးပေသည်။

---

**မှတ်ချက်။(၁)။** အကယ်၍ ကျမ်းမြတ်ကုရ်အာန်ကို(စူရဟ်အစမှ မဟုတ်ဘဲ) စူရဟ်အတွင်းရှိ အာယသ်တစ်ခုခုမှ စတင်ရွတ်ဖတ်ပါက تَسْمِيَّةُ ဖတ်ခြင်း ပိုမိုကောင်းမွန်ပေသည်။ ( تَعَوُّذْ ဖတ်ရန် အရေးကြီးပေသည်။)

**မှတ်ချက်။(၂)။** ကျမ်းမြတ်ကုရ်အာန်ကို စူရဟ်သောင်ဝ်ဗဟ်(ခေါ်)စူရဟ်ဗရာအသ်၏အစမှ စတင်ရွတ်ဖတ်ပါက تَسْمِيَّةُ ဖတ်ရန် အရေးမကြီးပေ။ အလားတူ ရွတ်ဖတ်နေရင်း ရောက်ရှိလာသော အခြားစူရဟ်သည် စူရဟ်သောင်ဝ်ဗဟ်ဖြစ်နေပါက تَسْمِيَّةُ မဖတ်ရပေ။ အကယ်၍ စူရဟ်သောင်ဝ်ဗဟ်အတွင်းရှိ အာယသ်တစ်ခုခုမှ စတင်ရွတ်ဖတ်ပါက تَسْمِيَّةُ ဖတ်ခြင်း ပိုမိုကောင်းမွန်ပေသည်။

(جمال القرآن - معارف التجويد)

---



### تَـعَـوُّذْ နှင့် تَـسْـمِـيَّـةُ ဖြင့် ကျမ်းမြတ်ကုရ်အာန်ကိုရွတ်ဖတ်နည်း

تَـعَـوُّذْ နှင့် تَـسْـمِـيَّـةُ ဖြင့် ကျမ်းမြတ်ကုရ်အာန်ကိုရွတ်ဖတ်နည်း (၄)မျိုးရှိပါသည်။ ၎င်းတို့မှာ-

(၁) فَـصْـلِ كُـلْ

(၂) وَصْـلِ كُـلْ

(၃) فَـصْـلِ اَوَّلْ وَصْـلِ ثَانِـىْ

(၄) وَصْـلِ اَوَّلْ فَـصْـلِ ثَانِـىْ - တို့ဖြစ်ပါသည်။

(၁) فَـصْـلِ كُـلْ အကြောင်း

فَـصْـلِ كُـلْ ဆိုသည်မှာ تَـعَـوُّذْ ، تَـسْـمِـيَّـةُ နှင့် အာယသ်တို့အား သီးခြားစီ(ရပ်နား၍) ဖတ်ခြင်းကို ခေါ်ပါသည်။

ဖတ်နည်းဥပမာ ▶

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمُ ● بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمُ ● اَلْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِيْنُ ●

(၂) وَصْـلِ كُـلْ အကြောင်း

وَصْـلِ كُـلْ ဆိုသည်မှာ تَـعَـوُّذْ ، تَـسْـمِـيَّـةُ နှင့် အာယသ်တို့အား တစ်ဆက်တည်း (မရပ်နားဘဲ)ဖတ်ခြင်းကို ခေါ်ပါသည်။

ဖတ်နည်းဥပမာ ▶

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمِ ● بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ● اَلْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِيْنُ ●

(၃) فَـصْـلِ اَوَّلْ وَصْـلِ ثَانِـىْ အကြောင်း

فَـصْـلِ اَوَّلْ وَصْـلِ ثَانِـىْ ဆိုသည်မှာ تَـعَـوُّذْ ကို သီးခြား(ရပ်နား၍)ဖတ်ပြီးမှ تَـسْـمِـيَّـةُ နှင့် အာယသ်တို့အား တစ်ဆက်တည်း(မရပ်နားဘဲ)ဖတ်ခြင်းကို ခေါ်ပါသည်။





ဖတ်နည်းဥပမာ ▶

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمِ ● بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمِ ● اَلْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِيْنَ ●

(၄) وَصْلِ اَوَّلْ فَصْلِ ثَانِى အကြောင်း

وَصْلِ اَوَّلْ فَصْلِ ثَانِى ဆိုသည်မှာ تَعَوُّذْ ကို تَسْمِيَّهْ နှင့် တစ်ဆက်တည်း (မရပ်နားဘဲ)ဖတ်ပြီးမှ အာယသ်အား သီးခြားဖတ်ခြင်းကို ခေါ်ပါသည်။

ဖတ်နည်းဥပမာ ▶

اَعُوْذُ بِاللّٰهِ مِنَ الشَّيْطَانِ الرَّجِيْمِ ● بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمُ ● اَلْحَمْدُ لِلّٰهِ رَبِّ الْعٰلَمِيْنُ ●

**မှတ်ချက်။(၁)။** ကျမ်းမြတ်ကုရ်အာန်ကို စူရဟ်တစ်ပုဒ်ပုဒ်၏အစမှ စတင်ရွတ်ဖတ်ပါက အထက်ပါပုံစံ(၄)မျိုးလုံးဖြင့် ဖတ်ပိုင်ခွင့်ရှိသည်။

**မှတ်ချက်။(၂)။**[1] အကယ်၍ ကျမ်းမြတ်ကုရ်အာန် ရွတ်ဖတ်နေရင်း အခြားစူရဟ်၏ အစကို ရောက်လာပါက ပထမပုံစံ(၃)မျိုးဖြင့်သာ ဖတ်ပိုင်ခွင့်ရှိသည်။ စတုတ္ထပုံစံဖြင့်ဖတ်ခြင်း မပိုင်ပါ။

မဖတ်ပိုင်သောပုံစံ၏ဥပမာ ▶

وَمِنْ شَرِّ حَاسِدٍ اِذَا حَسَدَ ● بِسْمِ اللّٰهِ الرَّحْمٰنِ الرَّحِيْمُ ● قُلْ اَعُوْذُ بِرَبِّ النَّاسْ ●

**မှတ်ချက်။(၃)။** အကယ်၍ تَعَوُّذْ နှင့် تَسْمِيَّهْ တို့ဖြင့် ကျမ်းမြတ်ကုရ်အာန်ကို (စူရဟ်အစမှ မဟုတ်ဘဲ) စူရဟ်အတွင်းရှိ အာယသ်တစ်ခုခုမှ စတင်ရွတ်ဖတ်ပါက အထက်ပါပုံစံ(၄)မျိုး အနက်မှ ပထမပုံစံနှင့် စတုတ္ထပုံစံတို့ဖြင့်သာ ရွတ်ဖတ်ခြင်း ပိုကောင်းပေသည်။

(معارف التجويد)

1 အကြောင်းမှာ ထိုသို့ဖတ်ခြင်းဖြင့် تَسْمِيَّهْ သည် ပထမစူရဟ်၏ နောက်ဆုံးအာယသ်ဖြင့် ဆက်နွယ်သွားပေမည်။ အမှန်စင်စစ် تَسْمِيَّهْ ၏ဆက်နွယ်မှုသည် အခြားစူရဟ်၏ အစနှင့်သာ သက်ဆိုင်ပေသည်။

## အခန်း(၁၆) وَقْفُ ရပ်နားခြင်းအကြောင်း

وَقْفُ ဆိုသည်မှာ စာလုံးတစ်လုံး၏ နောက်ဆုံးအက္ခရာ၌ အသက်ရှူခြင်းနှင့်တကွ ရပ်နားခြင်းကို ခေါ်ပါသည်။

ဥပမာ ▶ مِنْكُمْ ၏ مِنْ တွင်ရပ်နားခြင်းမပြုရ။ كُمْ တွင်သာ ရပ်နားရမည်။

**اَقْسَامُ الْوَقْفُ ရပ်နားခြင်း၏ အမျိုးအစားများ**

ရပ်နားခြင်း၏ အမျိုးအစားများအနက်အချို့မှာ -

(၁) وَقْفُ بِالسُّكُوْنْ

(၂) وَقْفُ بِالْاِسْكَانْ

(၃) وَقْفُ بِالْاِبْدَالْ

(၄) وَقْفُ بِالْاِشْمَامْ

(၅) وَقْفُ بِالرَّوْمْ - တို့ဖြစ်ပါသည်။

### (၁) وَقْفُ بِالسُّكُوْنْ အကြောင်း

وَقْفُ بِالسُّكُوْنْ ဆိုသည်မှာ မူလကတည်းက ( ــْ )ရှိနေသောအက္ခရာအား ထိုအတိုင်းပင် ရပ်နားခြင်းကို ခေါ်ပါသည်။

ဥပမာ ▶ وَلَمْ يُوْلَدْ

### (၂) وَقْفُ بِالْاِسْكَانْ အကြောင်း

وَقْفُ بِالْاِسْكَانْ ဆိုသည်မှာ حَرْكَتْ ရှိသောအက္ခရာအား (ــْ)ပေး၍ ၎င်း၏حَرْكَتْ အသံကို ပပျောက်စေပြီး ရပ်နားခြင်းကို ခေါ်ပါသည်။

| | ( ရေးသားသည့်ပုံစံ ) | | ( ရပ်နားသည့်ပုံစံ ) |
|---|---|---|---|
| ဥပမာ ▶ | عَالَمِيْنَ | ▶▶ | عَالَمِيْنْ |

## (၃) وَقْفْ بِالْإِبْدَالْ အကြောင်း

وَقْفْ بِالْإِبْدَالْ ဆိုသည်မှာ ( ـً )ကို ( ـَا )ဖြင့်လည်းကောင်း၊ ( ةٌ )ကို ( ہ )ဖြင့်လည်းကောင်း ပြောင်းလဲ၍ ရပ်နားခြင်းကို ခေါ်ပါသည်။

| | ( ရေးသားသည့်ပုံစံ ) | | ( ရပ်နားသည့်ပုံစံ ) |
|---|---|---|---|
| (ـً) ကို (ـَا)၏ ဥပမာ ▶ | بَصِيْرًا | ▶▶ | بَصِيْرَا |
| ( ةٌ ) ကို ( ہ )၏ ဥပမာ ▶ | حَسَنَةٌ | ▶▶ | حَسَنَهْ |

## (၄) وَقْفْ بِالْإِشْمَامْ အကြောင်း

وَقْفْ بِالْإِشْمَامْ ဆိုသည်မှာ ( ـُ )ရှိသောအက္ခရာကို ( ـْ )ပေးပြီး ( ـُ )ဘက်သို့ နှုတ်ခမ်းနှစ်ခုဖြင့်သာညွှန်ပြ၍ ရပ်နားခြင်းကို ခေါ်ပါသည်။

ဥပမာ ▶ نَسْتَعِيْنُ

**မှတ်ချက်။ ။** وَقْفْ بِالْإِشْمَامْ သည် (ـُ)နှင့်ဆုံးသော အက္ခရာများအတွက်သာ ဖြစ်သည်။

## (၅) وَقْفْ بِالرَّوْمْ အကြောင်း

وَقْفْ بِالرَّوْمْ ဆိုသည်မှာ (ـِ)နှင့်(ـُ) ရှိသောအက္ခရာကို (ـْ)ပေးပြီး ၎င်း၏ حَرَكَتْ အသံ (သုံးပုံတစ်ပုံခန့်)ကျန်ရှိစေ၍ ရပ်နားခြင်းကို ခေါ်ပါသည်။

ဥပမာ ▶ نَسْتَعِيْنُ ▶ اَلرَّحِيْمِ

**မှတ်ချက်။(၁)။** وَقْفْ بِالرَّوْمْ သည် (ـِ)နှင့်(ـُ)ရှိသော အက္ခရာများအတွက်သာ ဖြစ်သည်။

**မှတ်ချက်။(၂)။** နောက်ဆုံးတွင် تَنْوِيْن ရှိသောအက္ခရာများတွင်လည်း رَوْمْ ပုံစံဖြင့် ရပ်နားခွင့်ရှိပေသည်။ သို့သော် حَرْكَتْ အသံ(သုံးပုံတစ်ပုံခန့်)ကျန်ရှိစေပြီး ရပ်နားချိန်တွင် تَنْوِيْن ၏အသံအား မပေါ်လွင်စေရပါ။

**မှတ်ချက်။(၃)။** နောက်ဆုံးအက္ခရာသည် ( ة )ဖြစ်နေပါက ထိုနေရာတွင် اِشْمَامْ နှင့် رَوْمْ တို့၏ ပုံစံများဖြင့် မရပ်နားရပါ။

(جمال القرآن - معارف التجويد - تعليم الوقف)

## (၆) سَكْتَةْ အကြောင်း

سَكْتَةْ ဆိုသည်မှာ စာလုံးတစ်လုံး၏ နောက်ဆုံးအက္ခရာ ၌ အသက်မရှူဘဲ ခေတ္တရပ်နားခြင်းကို ခေါ်ပါသည်။ ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံးတွင် (၄)နေရာ၌သာ سَكْتَةْ လာရှိပါသည်။ ၎င်းတို့မှာ -

| | | | | |
|---|---|---|---|---|
| عِوَجًا ۜ قَيِّمًا | စူရဟ်ကဟ်ဖ် (၁) | ▲ | စူရဟ်ယာစီးန် (၅၂) | مَرْقَدِنَا ۜ هٰذَا |
| وَقِيْلَ مَنْ ۜ رَاقٍ | စူရဟ်ကိယာမဟ် (၂၇) | ▲ | စူရဟ်မုသွက်ဖ်ဖိဖီးန် (၁၄) | كَلَّا بَلْ ۜ رَانَ |

(جمال القرآن - معارف التجويد - تعليم الوقف)

## (၇) رُمُوْزُ الْوَقْفْ ရပ်နားခြင်းဆိုင်ရာသင်္ကေတများအကြောင်း (ဇယားပြ)

| ရပ်နားရန်အရေးကြီးသော / ရပ်နားခွင့်ရှိသော သင်္ကေတများ |
|---|
| ○ ط ج م قلے ص قف ۵ |

| မရပ်နားသင့်သော / ဆက်ဖတ်ခြင်းပိုကောင်းသော သင်္ကေတများ |
|---|
| صل لا۵ لا ز صلے ق |

| တစ်နေရာတွင်သာ ရပ်နားသင့်သော သင်္ကေတ | အသက်မရှူဘဲ ရပ်နားရမည့် သင်္ကေတများ |
|---|---|
| ∴ ∴ | سكتة وقفة |

## အခန်း(၁၇) صِفَاتُ الْحُرُوْفُ ဗျည်းအက္ခရာတို့၏ ဝိသေသများအကြောင်း

صِفَاتُ ဆိုသည်မှာ အက္ခရာများကို ရွတ်ဖတ်သည့်အခါ ပေါ်ပေါက်လာသော ဝိသေသများကို ခေါ်ပါသည်။ صِفَاتُ (၂)မျိုးရှိပါသည်။ ၎င်းတို့မှာ -

(၁) صِفَاتِ لَازِمَةْ

(၂) صِفَاتِ عَارِضَةْ - တို့ဖြစ်ပါသည်။

### (၁) صِفَاتِ لَازِمَةْ အကြောင်း

صِفَاتِ لَازِمَةْ ဆိုသည်မှာ အက္ခရာများနှင့်အတူ အမြဲဒွန်တွဲလျက်ရှိသော ဝိသေသများကို ခေါ်ပါသည်။ صِفَاتِ لَازِمَةْ (၁၇)မျိုးရှိပါသည်။

(၁) جَهْرْ (၂) هَمْسْ (၃) شِدَّةْ (၄) رِخَاوَةْ

(၅) اِسْتِعْلَاءْ (၆) اِسْتِفَالْ (၇) اِطْبَاقْ (၈) اِنْفِتَاحْ

(၉) اِذْلَاقْ (၁၀) اِصْمَاتْ (၁၁) صَفِيْرْ (၁၂) قَلْقَلَةْ

(၁၃) لِيْنْ (၁၄) اِنْحِرَافْ (၁၅) تَكْرِيْرْ (၁၆) تَفَشِّيْ

(၁၇) اِسْتِطَالَةْ

**(၁) جَهْرْ ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ တွင် အားပြုမှု ပြင်းထန်သည့်အတွက်ကြောင့် ထွက်သက်လေ ရပ်တန့်သွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၁၉)လုံးရှိပါသည်။

ظَلَّ قَوُرُبَضٍ إِذْ غَزَا جُنْدٌ مُطِيْعٌ

**(၂) هَمْسْ ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ တွင် အားပြုမှု နည်းသည့်အတွက်ကြောင့် ထွက်သက်လေ ကျန်ရှိနေခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာများသည်

جَـهْـرٌ ၏ အက္ခရာများမှအပ ကျန်(၁၀)လုံးဖြစ်ပါသည်။

فَحَثَّهُ شَخْصٌ سَكَتَ

**(၃)** شِدَّةٌ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ တွင် အင်အားအပြည့်နှင့် အားပြုရသည့်အတွက်ကြောင့် အသံရပ်တန့်သွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၈)လုံးရှိပါသည်။

اَجِدُ قَطٍ بَكَتْ

**(၄)** رِخَاوَةٌ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ တွင် အားပြုမှု နည်းသည့်အတွက်ကြောင့် အသံကျန်ရှိနေခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာများသည် شِدَّةٌ ၏ အက္ခရာများမှအပ ကျန်(၁၆)လုံးဖြစ်ပါသည်။

خُذْ غَثَّ حَظٍّ فَضَّ شَوْصٍ زِيَّ سَاهٍ

မှတ်ချက်။ ။ شِدَّةٌ နှင့် رِخَاوَةٌ ၏ကြားတွင် تَوَسُّطْ ဟူသော صِفَتْ တစ်ခုရှိပေသည်။ تَوَسُّطْ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ အသံ အပြည့်အဝမရပ်တန့်သလို၊ အပြည့်အဝလည်းမကျန်ရှိဘဲ ၎င်းနှစ်ခုကြားရှိပုံစံကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၅)လုံးရှိပါသည်။

لِنْ عُمَرَ

**(၅)** اِسْتِعْلَاءٌ **ဆိုသည်မှာ** အက္ခရာများကိုရွတ်ဖတ်သည့်အခါ လျှာ၏အရင်းပိုင်းသည် အပေါ်အာခေါင်သို့ ကြွတက်သွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၇)လုံးရှိပါသည်။

خُصَّ ضَغْطٍ قِظْ

**(၆)** اِسْتِفَالُ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ လျှာ၏အရင်းပိုင်းသည် အပေါ်အာခေါင်မှ ၎င်း၏အောက်ချိုင့်ဝှမ်းသို့ ကျရောက်သွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာများသည် اِسْتِعْلَاءٌ ၏ အက္ခရာများမှအပ ကျန်(၂၂)လုံးဖြစ်ပါသည်။

ثَبَتَ عِزُّ مَنْ يُجَوِّدُ حَرْفَهُ إِذْ سَلَّ شَكَا

(၇) اِطْبَاقْ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ လျှာ၏အလယ်ပိုင်းနှင့် အပေါ်အာခေါင် ထိကပ်သွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၄)လုံးရှိပါသည်။

ظ، ط، ض، ص

(၈) اِنْفِتَاحْ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ လျှာ၏အလယ်ပိုင်းနှင့် အပေါ်အာခေါင် ကွာသွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာများသည် اِطْبَاقْ ၏ အက္ခရာများမှ အပ ကျန်(၂၅)လုံးဖြစ်ပါသည်။

مَنْ اَخَذَ وَجَدَ سَعَةً فَزَكَا حَقٌّ لَهُ شُرْبُ غَيْثٍ

(၉) اِذْلَاقْ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ မှ လွယ်ကူလျင်မြန်စွာ ရွတ်ဖတ်နိုင်ခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၆)လုံးရှိပါသည်။

فَرَّمِنْ لُبٍّ

(၁၀) اِصْمَاتْ **ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ မှ လွယ်ကူလျင်မြန်စွာ မရွတ်ဖတ်နိုင်ခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာများသည် اِذْلَاقْ ၏ အက္ခရာများမှအပ ကျန်(၂၃)လုံးဖြစ်ပါသည်။

جُزْ غِشَّ سَاخِطٍ صِدْ ثِقَةً اِذْ وَعْظُهُ يَحُضُّكَ

မှတ်ချက်။ ။ အထက်ဖော်ပြပါ صِفَاتْ (၁၀)မျိုးသည် တစ်မျိုးနှင့်တစ်မျိုး ဆန့်ကျင်ဘက်ဖြစ်ပေသည်။ ၎င်းတို့၏ပုံစံမှာ -

(၁) جَهْرْ နှင့် هَمْسْ

(၂) شِدَّةْ နှင့် رِخَاوَةْ

(၃) اِسْتِعْلَاءْ နှင့် اِسْتِفَالْ

(၄) اِطْبَاقْ နှင့် اِنْفِتَاحْ

(၅) اِذْلَاقْ နှင့် اِصْمَاتْ

အောက်တွင်ဖော်ပြမည့် ကျန်ရှိသော صِفَاتٌ(၇)မျိုးတွင် ဆန့်ကျင်ဘက်မရှိပေ။

**(၁၁) صَفِيْرٌ ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ စူးရှသံပေါ်ပေါက်ခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၃)လုံးရှိပါသည်။

ص، س، ز

**(၁၂) قَلْقَلَةْ ဆိုသည်မှာ** سَاكِنْ ဖြစ်နေသောအခြေအနေတွင် အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ ၌ အသံပိုပေါ်ပေါက်ခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၅)လုံးရှိပါသည်။

قُطْبُ جَدٍّ

**(၁၃) لِيْنْ ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ နူးညံ့လွယ်ကူစွာ ရွတ်ဖတ်နိုင်ခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာ (၂)လုံးရှိပါသည်။

(يْ)အလျင် (ـَ)ရှိပုံ။ (ـَيْ) နှင့် (وْ) အလျင် (ـَ)ရှိပုံ။ (ـَوْ)

**(၁၄) اِنْحِرَافْ ဆိုသည်မှာ** အက္ခရာများကိုရွတ်ဖတ်သည့်အခါ လျှာတိမ်းသွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာသည် ( ل ) နှင့် ( ر ) နှစ်လုံးသာရှိပါသည်။

**(၁၅) تَكْرِيْرْ ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ လျှာတုန်ခါသွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာသည် ( ر ) တစ်လုံးသာရှိပါသည်။

**(၁၆) تَفَشِّيْ ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ ပါးစပ်အတွင်း၌လေပျံ့နှံ့သွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာသည် (ش) တစ်လုံးသာရှိပါသည်။

**(၁၇) اِسْتِطَالَةْ ဆိုသည်မှာ** အက္ခရာများကို ရွတ်ဖတ်သည့်အခါ مَخْرَجْ ၌ အသံရှည်လျားသွားခြင်းကို ခေါ်ပါသည်။ ၎င်းအက္ခရာသည် (ض) တစ်လုံးသာရှိပါသည်။

မှတ်ချက်။ ။ အက္ခရာတစ်လုံးတွင် အနည်းဆုံး صِفَاتِ لَازِمَةْ (၅)မျိုးရှိကြပြီး အများဆုံး (၇)မျိုးထိ ရှိကြပေသည်။

(مستفاد : مفتاح التجويد للمتعلم المستفيد - جمال القرآن - معارف التجويد)

## (၂) صِـفَاتِ عَارِضَـةُ အကြောင်း

صِـفَاتِ عَارِضَـةُ ဆိုသည်မှာ အက္ခရာများ၏ ယာယီဝိသေသများကို ခေါ်ပါသည်။

မှတ်ချက်။ ။ صِـفَاتِ عَارِضَـةُ သည် အက္ခရာအားလုံးတွင် မရှိပေ။ အက္ခရာ(၈)လုံးတွင်သာ ရှိပေသည်။ ထိုအက္ခရာ(၈)လုံးတွင်လည်း အချို့အခြေနေများကို ထောက်ရှု၍သာ ရှိပေမည်။ ၎င်းအက္ခရာ(၈)လုံးမှာ - اَوْيَـرْمَـلَانِ

---

(၁) لَامُ (၂) رَا

၎င်းအက္ခရာနှစ်လုံး၏ အချို့အခြေအနေတွင် ပေါ်ပေါက်လာသော تَـفْـخِـيْـمُ (သို့) تَـرْقِـيْـقُ ။

(၃) نُـوْنُ (၄) مِـيْـمُ

၎င်းအက္ခရာနှစ်လုံး၏ مُشَدَّدْ (သို့) سَاكِنْ ဖြစ်နေသည့် အခြေအနေတွင် ပေါ်ပေါက်လာသော غُـنَّـةُ , اِظْـهَارُ , اِدْغَامُ , اِقْـلَابُ , اِخْـفَاءُ ။ (ထိုထဲတွင် تَـنْـوِيْـنُ လည်း အကျုံးဝင်သည်)

(၅) اَلِـفُ (၆) وَاوُ (၇) يَا

၎င်းအက္ခရာသုံးလုံး၏ حُـرُوْفِ مَدَّةٌ ဖြစ်နေသည့် အခြေအနေတွင် ပေါ်ပေါက်လာသော مَـدْ (သို့) قَـصْـرُ ။

(၈) هَـمْـزَةٌ

၎င်းအက္ခရာ၏ အချို့အခြေအနေတွင် ပေါ်ပေါက်လာသော تَحْقِيْقُ (သို့) تَسْهِيْلُ နှင့် حَـذْفُ (ဖြုတ်ဖတ်ခြင်း) (သို့) اِثْـبَاتُ (ထည့်ဖတ်ခြင်း)။

(مستفاد : مفتاح التجويد للمتعلم المستفيد - جمال القرآن - معارف التجويد)

---

## (၃) صِفَاتِ لَازِمَة နှင့် صِفَاتِ عَارِضَة ၏ ခြားနားချက်

(၁) صِفَاتِ لَازِمَة ကို အကောင်အထည်မဖော်ပါက အက္ခရာ၏ပီသမှုသည် ပျောက်ကွယ်သွား၍ صِفَاتِ عَارِضَة ကို အကောင်အထည်မဖော်ပါက အက္ခရာ၏ပီသမှု မပျောက်ကွယ်သွားသော်လည်း အက္ခရာ၏ လှပတင့်တယ်မှု ပျောက်ကွယ်သွားပေမည်။

(၂) صِفَاتِ لَازِمَة တွင် မှားယွင်းခြင်းသည် لَحْنِ جَلِي ဖြစ်၍ صِفَاتِ عَارِضَة တွင် မှားယွင်းခြင်းသည် لَحْنِ خَفِي ဖြစ်ပေမည်။

(أصول التجويد - جمال القرآن - معارف التجويد)

### ဗျည်းအက္ခရာတို့၏ ဝိသေသများ (ဇယားပြ)

| | | | | | | | |
|---|---|---|---|---|---|---|---|
| ا | جَهْر | رِخَاوَة | اِسْتِفَال | اِنْفِتَاح | اِصْمَات | | |
| ب | جَهْر | شِدَّة | اِسْتِفَال | اِنْفِتَاح | اِذْلَاق | قَلْقَلَة | |
| ت | هَمْس | شِدَّة | اِسْتِفَال | اِنْفِتَاح | اِصْمَات | | |
| ث | هَمْس | رِخَاوَة | اِسْتِفَال | اِنْفِتَاح | اِصْمَات | | |
| ج | جَهْر | شِدَّة | اِسْتِفَال | اِنْفِتَاح | اِصْمَات | قَلْقَلَة | |
| ح | هَمْس | رِخَاوَة | اِسْتِفَال | اِنْفِتَاح | اِصْمَات | | |
| خ | هَمْس | رِخَاوَة | اِسْتِعْلَاء | اِنْفِتَاح | اِصْمَات | | |
| د | جَهْر | شِدَّة | اِسْتِفَال | اِنْفِتَاح | اِصْمَات | قَلْقَلَة | |
| ذ | جَهْر | رِخَاوَة | اِسْتِفَال | اِنْفِتَاح | اِصْمَات | | |
| ر | جَهْر | تَوَسُّط | اِسْتِفَال | اِنْفِتَاح | اِذْلَاق | اِنْحِرَاف | تَكْرِيْر |
| ز | جَهْر | رِخَاوَة | اِسْتِفَال | اِنْفِتَاح | اِصْمَات | صَفِيْر | |
| س | هَمْس | رِخَاوَة | اِسْتِفَال | اِنْفِتَاح | اِصْمَات | صَفِيْر | |
| ش | هَمْس | رِخَاوَة | اِسْتِفَال | اِنْفِتَاح | اِصْمَات | تَفَشِّي | |

| | | | | | | | |
|---|---|---|---|---|---|---|---|
| ص | هَمْسْ | رِخَاوَهْ | اِسْتِعْلَاءْ | اِطْبَاقْ | اِصْمَاتْ | صَفِيْرْ | |
| ض | جَهْرْ | رِخَاوَهْ | اِسْتِعْلَاءْ | اِطْبَاقْ | اِصْمَاتْ | اِسْتِطَالَهْ | |
| ط | جَهْرْ | شِدَّهْ | اِسْتِعْلَاءْ | اِطْبَاقْ | اِصْمَاتْ | قَلْقَلَهْ | |
| ظ | جَهْرْ | رِخَاوَهْ | اِسْتِعْلَاءْ | اِطْبَاقْ | اِصْمَاتْ | | |
| ع | جَهْرْ | تَوَسُّطْ | اِسْتِفَالْ | اِنْفِتَاحْ | اِصْمَاتْ | | |
| غ | جَهْرْ | رِخَاوَهْ | اِسْتِعْلَاءْ | اِنْفِتَاحْ | اِصْمَاتْ | | |
| ف | هَمْسْ | رِخَاوَهْ | اِسْتِفَالْ | اِنْفِتَاحْ | اِذْلَاقْ | | |
| ق | جَهْرْ | شِدَّهْ | اِسْتِعْلَاءْ | اِنْفِتَاحْ | اِصْمَاتْ | قَلْقَلَهْ | |
| ك | هَمْسْ | شِدَّهْ | اِسْتِفَالْ | اِنْفِتَاحْ | اِصْمَاتْ | | |
| ل | جَهْرْ | تَوَسُّطْ | اِسْتِفَالْ | اِنْفِتَاحْ | اِذْلَاقْ | اِنْحِرَافْ | |
| م | جَهْرْ | تَوَسُّطْ | اِسْتِفَالْ | اِنْفِتَاحْ | اِذْلَاقْ | | |
| ن | جَهْرْ | تَوَسُّطْ | اِسْتِفَالْ | اِنْفِتَاحْ | اِذْلَاقْ | | |
| و | جَهْرْ | رِخَاوَهْ | اِسْتِفَالْ | اِنْفِتَاحْ | اِصْمَاتْ | لِيْنْ | |
| ه | هَمْسْ | رِخَاوَهْ | اِسْتِفَالْ | اِنْفِتَاحْ | اِصْمَاتْ | | |
| ء | جَهْرْ | شِدَّهْ | اِسْتِفَالْ | اِنْفِتَاحْ | اِصْمَاتْ | | |
| ى | جَهْرْ | رِخَاوَهْ | اِسْتِفَالْ | اِنْفِتَاحْ | اِصْمَاتْ | لِيْنْ | |

## အခန်း(၁၈) ကျန် مَدّ (၃)မျိုးအကြောင်း

مَدّ အမျိုးအစား (၉)မျိုးအနက်မှ (၆)မျိုးကို အထက်တွင် တင်ပြခဲ့ပြီးဖြစ်ပါသည်။ ယခုကျန်ရှိသော (၃)မျိုးမှာ -

(၁) مَدِّ صِلَة

(၂) مَدِّ بَدَل

(၃) مَدِّ فَرْق - တို့ဖြစ်ပါသည်။

### (၁) مَدِّ صِلَة အကြောင်း

مَدِّ صِلَة ဆိုသည်မှာ هَاءِ ضَمِيْر (ခေါ်) နာမ်စား( ه )၌ (ـُ)ရှိပါက ( و )နှင့် ပေါင်းဖတ်ပုံ၊ (ـِ)ရှိပါက ( ى )နှင့် ပေါင်းဖတ်ပုံတို့ကို ခေါ်ပါသည်။

| | | | | |
|---|---|---|---|---|
| ဥပမာ ▶ | اِنَّهُ | ကို | اِنَّهُوْ | အသံဖြင့်ဖတ်ပုံ။ |
| ▶ | بِهِ | ကို | بِهِىْ | အသံဖြင့်ဖတ်ပုံ။ |
| ▶ | عِنْدَهُ اِلَّا | ကို | عِنْدَهُوْٓ اِلَّا | အသံဖြင့်ဖတ်ပုံ။ |

مَدِّ صِلَة (၂)မျိုးရှိပါသည်။ ၎င်းတို့မှာ-

(က) صِلَةِ قَصِيْرَة

(ခ) صِلَةِ طَوِيْلَة - တို့ဖြစ်ပါသည်။

**(က) صِلَةِ قَصِيْرَة ဆိုသည်မှာ** အထက်တွင်တင်ပြခဲ့သော ဥပမာ(၁)နှင့်(၂)တို့၏ ပုံစံမျိုးကို ခေါ်ပါသည်။ ထိုအခါတွင် مَدِّ اَصْلِى ကဲ့သို့ အလိဖ်(၁)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။

**(ခ) صِلَةِ طَوِيْلَة ဆိုသည်မှာ** مَدِّ صِلَة ၏နောက်တွင် အမြဲတည်ရှိနေသော هَمْزَة လာရှိခြင်းကို ခေါ်ပါသည်။ ထိုအခါတွင် مَدِّ مُنْفَصِل ကဲ့သို့ အလိဖ်(၁)လုံး (သို့) (၃)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ ( قَصْر، تَوَسُّط )

ဥပမာ ▶ عِنْدَهُۥٓ إِلَّا ◀ ကို عِنْدَهُوٓ إِلَّا အသံဖြင့်ဖတ်ပုံ။

▶ بِهِۦٓ إِلَّا ◀ ကို بِهِيٓ إِلَّا အသံဖြင့်ဖတ်ပုံ။

▶ وَلَهُۥٓ أَسْلَمَ ◀ ကို وَلَهُوٓ أَسْلَمَ အသံဖြင့်ဖတ်ပုံ။

**မှတ်ချက်။** ။ အထက်ပါ مَدّ (၂)မျိုးအနက်မှ صِلَةٍ قَصِيرَة အား حُرُوفِ مَدَّة ၏နေရာ၌လည်းကောင်း၊ صِلَةٍ طَوِيلَة အား مَدِّ مُنْفَصِل ၏နေရာ၌လည်းကောင်း အချို့က အသုံးပြုလေ့ရှိကြပေသည်။

## (၂) مَدِّ بَدَل အကြောင်း

مَدِّ بَدَل ဆိုသည်မှာ حُرُوفِ مَدَّة ၏အလျှင်၌ စာလုံးတစ်ခုထဲတွင် هَمْزَة လာရှိပြီး ၎င်း حُرُوفِ مَدَّة ၏နောက်တွင် هَمْزَة (သို့) سُكُون မလာရှိသောပုံစံကို ခေါ်ပါသည်။ ထိုအခါတွင် ၎င်းကို အလိဖ်(၁)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (قَصْر)[1]

ဥပမာ ▶ ءَامَنُوا ◀ أُوتُوا ◀ إِيمَانًا

## (၃) مَدِّ فَرْق အကြောင်း

مَدِّ فَرْق ဆိုသည်မှာ မေးခွန်းဝါကျစတင်ပုံနှင့် ရိုးရိုးသတင်းပေးဝါကျ စတင်ပုံတို့၏ အကြားတွင် ကွဲပြားခြားနားစေရန် အသုံးပြုထားသော مَدّ ကို ခေါ်ပါသည်။ ထိုအခါတွင် ၎င်းကို အလိဖ်(၅)လုံးခန့် ဆွဲ၍ဖတ်ရပေသည်။ (طُوْل)[1/2]

ဥပမာ ▶ ءَآلذَّكَرَيْنِ ◀ ءَآللَّهُ ◀ ءَآلْـَٰٔنَ

(مفتاح التجويد للمتعلم المستفيد)

1 မူလ၌ ءَامَنُوا သည် ءَأْمَنُوا ဖြစ်သည်။ أُوتُوا သည် မူလ၌ أُؤْتُوا ဖြစ်သည်။ إِيمَانًا သည် မူလ၌ إِئْمَانًا ဖြစ်သည်။ ၎င်းစာလုံးများ၌ရှိသော هَمْزَة သည် و၊ ى၊ ا တို့မှပြောင်းလာသည့်အတွက် مَدِّ بَدَل ဟုအမည်ပေးထားခြင်းဖြစ်သည်။

1/2 مَدِّ فَرْق သည် ကျမ်းမြတ်ကုရ်အာန်တစ်အုပ်လုံးတွင် ဤ(၃)လုံးသာ လာရှိပါသည်။

## အခန်း(၁၉) အရေးကြီးသော သိမှတ်ဖွယ်ရာများ

**သိမှတ်ဖွယ်။(၁)။**

အချို့စာလုံးများကိုရပ်နားသည့်အခါ ရေးသားထားသည့်အတိုင်းသာ ရပ်နားရပေမည်။

ဥပမာ။(၁)။ ( اَنَا۠ )ဟူသောစာလုံးတွင် ရပ်နားပါက ( اَنَا )ဟူ၍ ရေးသားထားသော( ا )ကို ထည့်ပြီးရပ်နားရမည်။

ဥပမာ။(၂)။ قَالُوا الْاٰنَ တွင်ရှိသော قَالُوا တွင် ရပ်နားပါက قَالُوْا ဟူ၍ ရေးသားထားသော ( و )ကို ထည့်ပြီးရပ်နားရမည်။

ဥပမာ။(၃)။ لَا يَهْدِى الْقَوْمَ တွင်ရှိသော لَا يَهْدِى တွင် ရပ်နားပါက لَا يَهْدِىْ ဟူ၍ ရေးသားထားသော( ى )ကို ထည့်ပြီးရပ်နားရမည်။

သို့သော် အောက်ပါစာလုံးများ၏ နောက်ဆုံးတွင် ရေးသားထားသော ( ا )ကိုမူ ဆက်ဖတ်သည့်အခါ၌ဖြစ်စေ၊ ရပ်နားသည့်အခါ၌ဖြစ်စေ ထည့်၍မဖတ်ရပါ။

| ( ရေးသားသည့်ပုံစံ ) | | ( ဖတ်ရမည့်ပုံစံ ) | |
|---|---|---|---|
| اَوْيَعْفُوَاْ | ▶▶ | اَوْيَعْفُوَ | စူရတ်ဗကရတ် (၂၃၇) |
| اَنْ تَبُوْٓءَاْ | ▶▶ | اَنْ تَبُوْٓءَ | စူရတ်မာအိဒဟ် (၂၉) |
| لِتَتْلُوَاْ | ▶▶ | لِتَتْلُوَ | စူရတ်ရအ်ဒ် (၃၀) |
| لَنْ نَّدْعُوَاْ | ▶▶ | لَنْ نَّدْعُوَ | စူရတ်ကဟ်ဖ် (၁၄) |
| لِيَرْبُوَاْ | ▶▶ | لِيَرْبُوَ | စူရတ်ရူးမ် (၃၉) |
| لِيَبْلُوَاْ | ▶▶ | لِيَبْلُوَ | စူရတ်မုဟမ္မဒ် (၄) |
| نَبْلُوَاْ | ▶▶ | نَبْلُوَ | စူရတ်မုဟမ္မဒ် (၃၁) |
| ثَمُوْدَاْ | ▶▶ | ثَمُوْدَ | စူရတ်ဟူးဒ် (၆၈)၊ စူရတ်ဖုရ်ကာန်(၃၈)၊ စူရတ်အန်ကဗူးသ် (၃၈)၊ စူရတ်နဂ္ဂမ် (၅၁) |
| (ဒုတိယ) قَوَارِيْرَاْ | ▶▶ | قَوَارِيْرَ | စူရတ်ဒဟ်ရ် (၁၆) |

(جمال القرآن - معارف التجويد - تعليم الوقف)

သိမှတ်ဖွယ်။(၂)။

အောက်ပါစာလုံးများ၏ နောက်ဆုံးတွင် ရေးသားထားသော( ا )ကို ဆက်ဖတ်သည့် အခါ၌ ဖြုတ်၍ဖတ်ပြီး ရပ်နားသည့်အခါ၌မူ ထည့်၍ရပ်ရပေမည်။

| | ( ရပ်နားသည့်ပုံစံ ) | | ( ဆက်ဖတ်သည့်ပုံစံ ) | | ( ရေးသားသည့်ပုံစံ ) | |
|---|---|---|---|---|---|---|
| စူရဟ်ကဟ်ဖ် (၃၈) | لٰكِنَّا | ▶▶ | لٰكِنَّ | ▶▶ | لٰكِنَّاْ | |
| စူရဟ်အဟ်ဇားဗ် (၁၀) | اَلظُّنُوْنَا | ▶▶ | اَلظُّنُوْنَ | ▶▶ | اَلظُّنُوْنَاْ | |
| စူရဟ်အဟ်ဇားဗ် (၆၆) | اَلرَّسُوْلَا | ▶▶ | اَلرَّسُوْلَ | ▶▶ | اَلرَّسُوْلَاْ | |
| စူရဟ်အဟ်ဇားဗ် (၆၇) | اَلسَّبِيْلَا | ▶▶ | اَلسَّبِيْلَ | ▶▶ | اَلسَّبِيْلَاْ | |
| ကုရ်အာန်တစ်အုပ်လုံးတွင်ရှိ | اَنَا | ▶▶ | اَنَ | ▶▶ | اَنَاْ | |
| စူရဟ်ဒဟ်ရ် (၄) | سَلٰسِلَا | ▶▶ | سَلٰسِلَ | ▶▶ | سَلٰسِلَاْ | |
| စူရဟ်ဒဟ်ရ် (၁၅) | قَوَارِيْرَا | ▶▶ | قَوَارِيْرَ | ▶▶ | قَوَارِيْرَاْ | (ပထမ) |

မှတ်ချက်။ ။ سَلٰسِلَاْ ဟူသောစာလုံးကိုရပ်နားချိန်တွင် နောက်ဆုံး၌ရှိသော( ا )ကို ဖြုတ်ပြီး سَلٰسِلْ ဟူ၍လည်း ရပ်နားခွင့်ရှိပေသည်။

(جمال القرآن - تعليم الوقف)

သိမှတ်ဖွယ်။(၃)။

ကျမ်းမြတ်ကုရ်အာန်၏ အချို့နေရာများတွင် ရေးသားထားသော ( لَاْ )ကို ( لَ )ဟူ၍ ( ا )ဖြုတ်ပြီး ဖတ်ရပေမည်။

| | ( ဖတ်ရမည့်ပုံစံ ) | | ( ရေးသားသည့်ပုံစံ ) |
|---|---|---|---|
| စူရဟ်အာလိအင်မ်ရာန်(၁၅၈) | لَاِلَى اللّٰهِ | ▶▶ | لَاْاِلَى اللّٰهِ |
| စူရဟ်သောင်ဗ်ဗဟ် (၄၇) | وَلَاَوْضَعُوْا | ▶▶ | وَلَاْاَوْضَعُوْا |
| စူရဟ်နမ်လ် (၂၁) | اَوْلَاَذْبَحَنَّهٗ | ▶▶ | اَوْلَاْاَذْبَحَنَّهٗ |
| စူရဟ်ဆွားဖ်ဖားသ် (၆၈) | لَاِلَى الْجَحِيْمِ | ▶▶ | لَاْاِلَى الْجَحِيْمِ |

(جمال القرآن)

## သိမှတ်ဖွယ်။(၄)။

အောက်ပါစာလုံးများတွင်ရှိသော ( ا )ကို အမြဲတမ်း ဖြုတ်၍ဖတ်ရပေမည်။

| (ရေးသားသည့်ပုံစံ) | | (ဖတ်ရမည့်ပုံစံ) |
|---|---|---|
| اَفَاْئِنْ | ▶▶ | اَفَإِنْ |
| لِشَاْیْءٍ | ▶▶ | لِشَيْءٍ |
| نَبَاْئِ | ▶▶ | نَبَإِ |
| وَجِاْيْٓءَ | ▶▶ | وَجِيْٓءَ |
| مَلَاْئِهٖ | ▶▶ | مَلَئِهٖ |
| مَلَاْئِهِمْ | ▶▶ | مَلَئِهِمْ |
| مَلَاْءُ | ▶▶ | مَلَءُ |
| مِاْئَةٌ | ▶▶ | مِئَةٌ |
| مِاْئَتَيْنِ | ▶▶ | مِئَتَيْنِ |

(جمال القرآن - تعليم الوقف)

## သိမှတ်ဖွယ်။(၅)။

အောက်ပါစာလုံးများတွင်ရှိသော ( و )ကို အမြဲတမ်း ဖြုတ်၍ဖတ်ရပေမည်။

| (ရေးသားသည့်ပုံစံ) | | (ဖတ်ရမည့်ပုံစံ) |
|---|---|---|
| اُوْلٰٓئِكَ | ▶▶ | اُلٰٓئِكَ |
| اُوْلُوْا | ▶▶ | اُلُوْا |
| لَاُوْصَلِّبَنَّكُمْ | ▶▶ | لَاُصَلِّبَنَّكُمْ |
| سَاُوْرِيْكُمْ | ▶▶ | سَاُرِيْكُمْ |
| اُوْلِي النُّهٰى | ▶▶ | اُلِي النُّهٰى |

(تيسير القرآن)

**သိမှတ်ဖွယ်။(၆)။**

အောက်ပါစာလုံးများတွင်ရှိသော ( نَ )၏နောက်မှ ( ا )ကို အမြဲတမ်း ထည့်၍ဖတ်ရပေမည်။

أَنَامِلَ ▶ أَنَاسِىَ ▶ أَنَابَ ▶ أَنَابُوْا ▶ لِلْأَنَامِ

(آسان تجويد)

**သိမှတ်ဖွယ်။(၇)။**

ءَاَعْجَمِىٌّ (စူရဟ်ဟာမီးမ်အတ်စ်စဂျ်ဒဟ်၊ ၄၄)တွင်ပါရှိသော ဒုတိယဟာမ်ဇဟ်( اَ ) ကို အနည်းငယ် နူးညံ့ပျော့ပြောင်းစွာ ဖတ်ရပေမည်။ ထိုသို့ဖတ်ရခြင်းကို تَسْهِيْلُ ဟု ခေါ်ပါသည်။

(جمال القرآن)

**သိမှတ်ဖွယ်။(၈)။**

بِسْمِ اللّٰهِ مَجْرٖىهَا (စူရဟ်ဟူးဒ်၊ ၄၁)တွင် ပါရှိသော( ر )ကို اِمَالَهْ ဖြင့် ဖတ်ရပေမည်။

**ဖတ်နည်းဥပမာ** ▶ مَجْرٖىهَا (မဂျ်ရေးဟာ)

(جمال القرآن)

**သိမှတ်ဖွယ်။(၉)။**

لَا تَاْمَنَّا (စူရဟ်ယူစွဖ်၊ ၁၁)တွင် اِدْغَامْ ဖြင့်လည်း ဖတ်နိုင်သည်။ اِظْهَارْ ဖြင့်လည်း ဖတ်နိုင်သည်။ اِدْغَامْ ဖြင့် ဖတ်ပါက اِشْمَامْ ပြုလုပ်ရန် အရေးကြီးပေသည်။ အကယ်၍ اِظْهَارْ ဖြင့်ဖတ်ပါက رَوْمْ ပြုလုပ်ရန် အရေးကြီးပေသည်။ اِشْمَامْ ပြုလုပ်၍ဖတ်ခြင်းသည် သာပို၍ လွယ်ကူပေသည်။ لَا تَاْمَنَّا ၏ မူရင်းသည် لَا تَاْمَنُنَا ဟူ၍ဖြစ်သည်။

(جمال القرآن - معارف التجويد)

သိမှတ်ဖွယ်။(၁၀)။

ကျမ်းမြတ်ကုရ်အာန်တွင် ( ص )အက္ခရာပေါ်၌ ( س )အသေးလေး ရေးထားသော စာလုံး(၄)လုံးရှိပါသည်။

| يَقْبِضُ وَيَبْصُۜطُ | စူရတ်ဗကရတ် (၂၄၅) ▲ စူရတ်အအ်ရာဖ် (၆၉) | فِى الْخَلْقِ بَصْۜطَةً |
|---|---|---|

အထက်ပါစာလုံးနှစ်လုံးတွင်ပါရှိသော (ص)ကို (س)ဖြင့် ဖတ်ရပေမည်။

▶ أَمْ هُمُ الْمُصَۜيْطِرُونَ စူရတ်သူရ် (၃၇)

အထက်ပါစာလုံးတွင်ပါရှိသော (ص)ကို (ص)(သို့)(س) နှစ်မျိုးစလုံးဖြင့် ဖတ်ပိုင်ခွင့်ရှိပေသည်။

▶ بِمُصَۜيْطِرٍ စူရတ်ဂါရှိယဟ် (၂၂)

အထက်ပါစာလုံးနှစ်လုံးတွင်ပါရှိသော (ص)ကို (ص)ဖြင့်သာ ဖတ်ရပေမည်။

(جمال القرآن - معارف التجويد)

သိမှတ်ဖွယ်။(၁၁)။

အောက်ပါ(၄)နေရာတွင် ပါရှိသော ( ط )ကို ( ت )နှင့် اِدْغَامْ ပြုလုပ်၍ ( ط )ကို ( قَلْقَلَهْ မလုပ်ဘဲ) تَفْخِيْمْ ဖြင့်ဖတ်ပြီး ( ت )ကို تَرْقِيْقْ ဖြင့်ဖတ်ရပေမည်။ ထို اِدْغَامْ ကို اِدْغَامِ نَاقِصْ ဟုခေါ်ပါသည်။

| لَئِنْ بَسَطْتَّ | စူရတ်မာအိဒဟ် (၂၈) ▲ စူရတ်နမ်လ် (၂၂) | اَحَطْتُّ |
|---|---|---|
| مَا فَرَّطْتُّمْ | စူရတ်ယူစွဖ် (၈၀) ▲ စူရတ်ဇုမရ် (၅၆) | مَا فَرَّطْتُّ |

(جمال القرآن)

သိမှတ်ဖွယ်။(၁၂)။

اَلَمْ نَخْلُقْكُّمْ (စူရတ်မုရ်စလားသ်၊ ၂၀)တွင်ပါရှိသော ( ق )ကို အထက်ပါပုံစံအတိုင်း اِدْغَامِ نَاقِصْ ပြုပိုင်ပေသည်။ သို့သော် အကောင်းဆုံးမှာ ( ق )ကို ( ك )ဖြင့်ပြောင်းပြီး ( ك ) ထဲတွင် اِدْغَامْ ပြုလုပ်၍ဖတ်ခြင်း ဖြစ်ပေသည်။ (جمال القرآن)





**သိမှတ်ဖွယ်။(၁၃)။**

ٱلِٱسۡمُ بِئۡسَ (စူရဟ်ဟုဂျုရားသ်၊ ၁၁)၏ ٱسۡمُ တွင်ရှိသော ( ا )ဟမ်ဇဟ်ကို ထည့်၍မဖတ်ရ။ ( ل )နှင့်(س)ကိုပေါင်းပြီး بِئۡسَ لِسۡمُ ဟူ၍သာ ဖတ်ရပေမည်။

(جمال القرآن)

**သိမှတ်ဖွယ်။(၁၄)။**

(ـّ)ရှိသောအက္ခရာတွင် ရပ်နားပါက (ـّ)အသံကျန်ရှိစေရန် အနည်းငယ် ပြင်းထန်စွာ ရပ်နားရမည်။

ဥပမာ ▶ عَلَى ٱلنَّبِيّ ◀ عَدُوّ

(جمال القرآن)

**(အသိပေးခြင်း)**

ဤကျမ်းငယ်တွင် ဖော်ပြခဲ့သော ဥပဒေများအနက် အများစုမှာ အကွဲအလွဲမရှိပါ။ အချို့အကွဲအလွဲရှိသော ဥပဒေများတွင်လည်း အိမာမ်ဟဖ်ဆ္ဗ ﷺ ၏လမ်းစဉ်မှ ဥပဒေများကိုသာ ရေးသားထားပါသည်။ အကြောင်းမှာ ကျွန်ုပ်တို့သည် အိမာမ်ဟဖ်ဆ္ဗ ﷺ ၏လမ်းစဉ်နှင့်အညီ ကျမ်းမြတ်ကုရ်အာန်ကို ရွတ်ဖတ်ကြခြင်းကြောင့် ဖြစ်ပါသည်။



## سَنَدُ الْإِمَامِ حَفْصِ بْنِ سُلَيْمَانَ الْأَسَدِيِّ الْكُوفِيِّ

## (အိမာမ်ဟာဖ်ဆ် ﵀ ၏စနဒ်)

ကျမ်းတော်မြတ်ကုရ်အာန်ကို

اَلْإِمَامُ حَفْصُ بْنُ سُلَيْمَانَ الْأَسَدِيُّ الْكُوفِيُّ ﵀ သည်

اَلْإِمَامُ عَاصِمُ بْنُ أَبِي النُّجُودِ التَّابِعِيُّ ﵀ ထံမှ သင်ယူခဲ့သည်။

اَلْإِمَامُ عَاصِمُ بْنُ أَبِي النُّجُودِ التَّابِعِيُّ ﵀ သည်

اَلْإِمَامُ زِرُّ بْنُ حُبَيْشٍ الْأَسَدِيُّ ﵀ နှင့်

اَلْإِمَامُ عَبْدُ اللهِ بْنُ حَبِيبٍ السُّلَمِيُّ ﵀ တို့ထံမှ သင်ယူခဲ့သည်။

ထိုအိမာမ်နှစ်ပါးသည် တမန်တော်မြတ် ﷺ ၏ အဆွ်ဟာဗ်တော်များဖြစ်သော

عُثْمَانُ بْنُ عَفَّانَ ﵁ သခင်၊ عَلِيُّ بْنُ أَبِي طَالِبٍ ﵁ သခင်၊

زَيْدُ بْنُ ثَابِتٍ ﵁ သခင်၊ عَبْدُ اللهِ بْنُ مَسْعُودٍ ﵁ သခင်၊

أُبَيُّ بْنُ كَعْبٍ ﵁ သခင်တို့ထံမှ သင်ယူခဲ့ကြသည်။

ထိုအဆွ်ဟာဗ်တော်များသည် ကျွန်ုပ်တို့၏ချစ်နဗီ

مُحَمَّدٌ رَسُولُ اللهِ ﷺ ထံတော်မှ သင်ယူခဲ့ကြသည်။

........................................................................







## အက္ခရာတို့၏ ထွက်ရှိရာနေရာများ

(၁) جَـوْف ပါးစပ်အတွင်းရှိ လေဟာနယ် = မခ်ရဂျ် (၁)ခု

၁။ حُرُوْفِ مَدَّة (၃)လုံး — جَوْفِيَّة ، هَوَائِيَّة ▶ ـَا ، ـِي ، ـُو

---

(၂) حَـلْـق လည်ချောင်း = မခ်ရဂျ်(၃)ခု = အက္ခရာ(၆)လုံး

၁။ လည်ချောင်း အောက်ဆုံး — حَلْقِيَّة ▶ ء ، ه

၂။ လည်ချောင်း အလယ် — حَلْقِيَّة ▶ ع ، ح

၃။ လည်ချောင်း အပေါ်ဆုံး — حَلْقِيَّة ▶ غ ، خ

---

(၃) لِسَان နှုတ်လျှာ = မခ်ရဂျ်(၁၀)ခု = အက္ခရာ(၁၈)လုံး

၁။ လျှာအရင်း + အပေါ်အာခေါင် — لَهْوِيَّة ▶ ق

၂။ လျှာအရင်း + အပေါ်အာခေါင် (ရှေ့အနည်းငယ်တိုး) — لَهْوِيَّة ▶ ك

၃။ လျှာအလယ် + အပေါ်အာခေါင် — شَجْرِيَّة ▶ ج ، ش ، ي

၄။ လျှာဘေးဖေါင်း + အပေါ်အံသွားများ — حَافَة ▶ ض

၅။ လျှာရှေ့ပိုင်း + အပေါ်ရှေ့သွား(၈)ချောင်း၏ သွားဖုံး — ذَلْقِيَّة ، طَرْفِيَّة ▶ ل

၆။ လျှာရှေ့ပိုင်း + အပေါ်ရှေ့သွား(၆)ချောင်း၏ သွားဖုံး — ذَلْقِيَّة ، طَرْفِيَّة ▶ ن

၇။ လျှာထိပ်ပိုင်း + အပေါ်ရှေ့သွား(၄)ချောင်း၏ သွားဖုံး — ذَلْقِيَّة ، طَرْفِيَّة ▶ ر

၈။ လျှာအဖျား + အပေါ်ရှေ့သွား(၂)ချောင်း၏ အရင်း — نِطَعِيَّة ▶ ت ، د ، ط

၉။ လျှာအဖျား + အပေါ်ရှေ့သွား(၂)ချောင်း၏ အဖျား — لِثَوِيَّة ▶ ث ، ذ ، ظ

၁၀။ လျှာအဖျား + အပေါ်အောက်ရှေ့သွား(၂)ချောင်း၏ အဖျား — صَفِيْرِيَّة ▶ ز ، س ، ص

---

(၄) شَـفَـتَان နှုတ်ခမ်းနှစ်ခု = မခ်ရဂျ်(၂)ခု = အက္ခရာ(၄)လုံး

၁။ အောက်နှုတ်ခမ်း အတွင်းပိုင်း + အပေါ်ရှေ့သွား(၂)ချောင်း၏ အဖျား — شَفَوِيَّة ▶ ف

၂။ နှုတ်ခမ်းနှစ်ခုကြား — شَفَوِيَّة ▶ ب ، م ، و

---

(၅) خَـيْـشُـوْم နှာတံရင်း = မခ်ရဂျ်(၁)ခု

၁။ غُنَّة အက္ခရာများ

---

( အလွယ်တကူ မှတ်သားရန် မှတ်စုများ )

غُنَّة နှာတံရင်းမှ ညည်း၍ဖတ်ရသော အက္ခရာများ ▶ نّ، مّ

---

تَنْوِين ، نْ ဖတ်နည်းဥပဒေ(၄)မျိုး

(၁) اِظْهَار = ပေါ်လွင်ထင်ရှားစွာဖတ်ခြင်း။ ▶ ء، ه، ع، ح، غ، خ

(၂) اِدْغَام = ပေါင်းစပ်၍ဖတ်ခြင်း။ ▶ ن [illegible]

၁။ اِدْغَام بِغُنَّة = ညည်းသံနှင့်တကွ ပေါင်းစပ်၍ဖတ်ခြင်း။ ▷ ي، ن، م، و

၂။ اِدْغَام بِغَيْرِ غُنَّة = မညည်းဘဲ ပေါင်းစပ်၍ဖတ်ခြင်း။ ▷ ل، ر

(၃) اِقْلَاب = မီးမ်စာကင်န်၏အသံဖြင့် ပြောင်းလဲ၍ဖတ်ခြင်း။ ▶ ب

(၄) اِخْفَاء = ဖုံးအုပ်၍ ညည်းဖတ်ခြင်း။ ▶ ကျန်(၁၅)လုံး

---

مْ ဖတ်နည်းဥပဒေ(၃)မျိုး

(၁) اِدْغَام شَفَوِى = ညည်းသံနှင့်တကွ ပေါင်းစပ်၍ဖတ်ခြင်း။ ▶ م

(၂) اِخْفَاء شَفَوِى = ဖုံးအုပ်၍ ညည်းဖတ်ခြင်း။ ▶ ب

(၃) اِظْهَار شَفَوِى = ပေါ်လွင်ထင်ရှားစွာဖတ်ခြင်း။ ▶ ကျန်(၂၆)လုံး

---

قَلْقَلَة မခ်ရဂ်ျ်၌ အသံပိုပေါ်ပေါက်၍ဖတ်ရသော အက္ခရာများ ▶ ق، ط، ب، ج، د

(၁) အမြင့်ဆုံးအဆင့် = မုရှဒ္ဒဒ်အဖြစ်နှင့် ရပ်နားသည့်ပုံစံ။ ▶ قَلْقَلَة كُبْرٰى

(၂) ဒုတိယအဆင့် = စာကင်န်အဖြစ်နှင့် ရပ်နားသည့်ပုံစံ။ ▶ قَلْقَلَة كُبْرٰى

(၃) အနိမ့်ဆုံးအဆင့် = မရပ်နားဘဲ စာကင်န်ဖြစ်သည့်ပုံစံ။ ▶ قَلْقَلَة صُغْرٰى

---

تَفْخِيْم ထည်ဝါစွာဖတ်ရသော အက္ခရာများ ▶ خ، ص، ض، غ، ط، ق، ظ

تَرْقِيْق ပါးလွှာစွာဖတ်ရသော အက္ခရာများ ▶ ကျန်(၂၂)လုံး

---

اَللّٰه စာလုံးတွင်ရှိသော ل ၏အလျင် ( َ )သို့( ُ )ရှိပါက ▶ تَفْخِيْم

اَللّٰه စာလုံးတွင်ရှိသော ل ၏အလျင် ( ِ )ရှိပါက ▶ تَرْقِيْق

---

( အလွယ်တကူ မှတ်သားရန် မှတ်စုများ )

ပထမပုံစံ။ ။ رَاءمُتَحَرِّكْ

| | |
|---|---|
| ( ر )တွင် (ـَ)သို့(ـُ)ရှိပါက | تَفْخِيْمْ |
| ( ر )တွင် (ـِ)ရှိပါက | تَرْقِيْقْ |

ဒုတိယပုံစံ။ ။ رَاءسَاكِنْ အလျင် حَرَكَتْ

| | |
|---|---|
| ( رْ )အလျင် (ـَ)သို့(ـُ)ရှိပါက | تَفْخِيْمْ |
| ( رْ )အလျင် (ـِ)ရှိပါက | تَرْقِيْقْ |
| ( رْ )အလျင်ရှိသော (ـِ)သည် မူရင်း(ـِ)မဟုတ်ပါက | تَفْخِيْمْ |
| ( رْ )အလျင်ရှိသော (ـِ)သည် စာလုံးတစ်လုံးထဲတွင်အတူ မဟုတ်ပါက | تَفْخِيْمْ |
| (ـِرْ)၏နောက် စာလုံးတစ်လုံးထဲတွင် حُرُوْفِ مُسْتَعْلِيَّةْ အတူရှိပါက | تَفْخِيْمْ |

တတိယပုံစံ။ ။ رَاءسَاكِنْ အလျင် سَاكِنْ

| | |
|---|---|
| (ـْرْ)၏အလျင် (ـَ)သို့(ـُ)ရှိပါက | تَفْخِيْمْ |
| (ـْرْ)၏အလျင် (ـِ)ရှိပါက | تَرْقِيْقْ |
| ရပ်နားမည့်( ر )အလျင် ( يْ )ရှိပါက | تَرْقِيْقْ |
| ရပ်နားမည့်( ر )နှင့် (ـِ)ကြားတွင် حُرُوْفِ مُسْتَعْلِيَّةْ ရှိပါက | تَرْقِيْقْ،تَفْخِيْمْ |

စတုတ္ထပုံစံ။ ။ رَاءمُشَدَّدْ

| | |
|---|---|
| ( رّ )တွင် (ـَ)သို့(ـُ)ရှိပါက | تَفْخِيْمْ |
| ( رّ )တွင် (ـِ)ရှိပါက | تَرْقِيْقْ |
| ရပ်နားမည့် ( رّ )အလျင် (ـَ)သို့(ـُ)ရှိပါက | تَفْخِيْمْ |
| ရပ်နားမည့် ( رّ )အလျင် (ـِ)ရှိပါက | تَرْقِيْقْ |

---

| | | |
|---|---|---|
| **حُرُوْفِ مَدَّةْ ၏ပုံစံ** | قَصْرْ | ـَا، ـِيْ، ـُوْ |
| حُرُوْفِ مَدَّةْ ၏နောက်တွင် ا လာပါက | قَصْرْ،تَوَسُّطْ | مُنْفَصِلْ |
| حُرُوْفِ مَدَّةْ ၏နောက်တွင် ء လာပါက | تَوَسُّطْ | مُتَّصِلْ |
| حُرُوْفِ مَدَّةْ ၏နောက်တွင် سُكُوْنِ وَقْفِيْ လာပါက | طُوْلْ،تَوَسُّطْ،قَصْرْ | عَارِضْ |
| حُرُوْفِ مَدَّةْ ၏နောက်တွင် ـّ လာပါက | طُوْلْ | لَازِمْ كَلِمِيْ مُشَقَّلْ |
| حُرُوْفِ مَدَّةْ ၏နောက်တွင် ـْ လာပါက | طُوْلْ | لَازِمْ كَلِمِيْ مُخَفَّفْ |
| حُرُوْفِ مُقَطَّعَاتْ တွင်ရှိသော حُرُوْفِ مَدَّةْ ၏နောက်တွင် ـّ လာပါက | طُوْلْ | لَازِمْ حَرْفِيْ مُشَقَّلْ |
| حُرُوْفِ مُقَطَّعَاتْ တွင်ရှိသော حُرُوْفِ مَدَّةْ ၏နောက်တွင် ـْ လာပါက | طُوْلْ | لَازِمْ حَرْفِيْ مُخَفَّفْ |

( အလွယ်တကူ မှတ်သားရန် မှတ်စုများ )





| | | |
|---|---|---|
| ـَيْ ، ـَوْ | قَصْر | حُرُوفِ لِيْنْ ၏ပုံစံ |
| لِيْنْ لَازِمْ | طُوْلْ ، تَوَسُّطْ ، قَصْر | حُرُوفِ مُقَطَّعَاتْ တွင်ရှိသော حُرُوفِ لِيْنْ ၏နောက်တွင် ـْ လာပါက |
| لِيْنْ عَارِضْ | قَصْر ، تَوَسُّطْ ، طُوْلْ | حُرُوفِ لِيْنْ ၏နောက်တွင် سُكُوْنِ وَقْفِيْ လာပါက |

## (ကိုးကားထားသောကျမ်းများ)


١. القرآن الكريم

٢- المقدمة الجزرية للعلامة شمس الدين محمد بن محمد بن محمد الجزري

٣- الدقائق المحكمة في شرح المقدمة الجزرية للعلامة زين الدين أبي يحيى الأنصاري

٤- أحكام قراءة القرآن الكريم لشيخ المقارئ محمود خليل الحصري

٥- مفتاح التجويد للمتعلم المستفيد للشيخ عبد الله السنّاري

٦- تحفة الأطفال للشيخ سليمان بن حسين الجمزوري

٧- جمال القرآن لحكيم الأمة محمد أشرف علي التهانوي

٨- خلاصة البيان للعلامة الشيخ المقري ضياء الدين أحمد اله آبادي

٩- فوائد مكية للإمام المقري عبد الرحمن المكي

١٠- معارف التجويد لأستاذ القراءة والتجويد القاري محمد يوسف السهارنبوري

١١- أصول التجويد لأستاذ القراءة والتجويد القاري جمشيد علي


## الخاتمة

وإن تجد عيبا فسدّ الخللا ⁝ جلّ من لاعيب فيه وعلا

وأهد إلينا العيب فيها تجمّلا ⁝ ولاتنسى الدعاء إن كنت راضيا

والله نسأل أن يحقّق بها نفعا ⁝ ويغفرلنا ما فرط منا فيها

والصلاة والسلام على حبيبنا ⁝ والحمد لله ربّنا تبارك وعلا

هذا الكتاب ألفه جمع من علماء بورما، واعتمدوا في تأليفه على كتاب رائد الإخوان في تجويد القرآن للشيخ المفتي المقرئ عبد الرحيم المظاهري القاسمي الندوي حتى يصح أن يقال أن هذا الكتاب تسهيل وتهذيب كتاب الشيخ عبد الرحيم، ومع ذلك لم يذكروا في مراجعه ومصادره اسم كتاب الشيخ، بل حذفوه، وذكروا المصادر الكبرى مثل الجزرية وأحكام قراءة القرآن، وكأنهم راجعوها وترجموها مباشرة بغير واسطة، فمن راجع الكتابين يعرف جيدا أن الخزائن نقل ألفاظ رائد الإخوان واصطلاحاته، وهذا لا ينبغي بل لا بد من أن يجتنب لمؤلف كي يكون الكتاب مباركا ونافعا ومقبولا عند الناس، وقال شيخنا العلامة محمد يونس الجونفوري: من بركة العلم إضافة الأقوال إلى قائليها.